၄။ ဤဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ်ပါ စည်းကမ်းချက်များနှင့် သက်ဆိုင်သောကိစ္စရပ်များမှအပ မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲမှုမရှိဘဲဆက်လက် အကျိုးသက်ရောက်မှုရှိစေရမည်။

၅။ မူလစာချုပ်ပါစည်းကမ်းချက်များ၊ ပြင်ဆင်ချက်သဘောတူစာချုပ်ပါစည်းကမ်းချက်များနှင့် ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါစည်းကမ်းချက်များကွဲလွဲမှုရှိလာပါက ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါစည်းကမ်းချက်များက လွှမ်းမိုးရမည်။

၆။ ဤဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏အစိတ်အပိုင်းတစ်ရပ်အဖြစ် မှတ်ယူရမည်။ ဤဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်ပါ နောက်ဆက်တွဲဇယားသည် ဤပြင်ဆင်ချက်စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

ဤဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်အား စာချုပ်၏အစဦးပိုင်းတွင်ဖော်ပြထားသော ၂၀၁၄ခုနှစ်၊ စက်တင်ဘာ လ၊ ၁၅ ရက်တွင် အောက်ပါအတိုင်း နှစ်ဦးနှစ်ဖက်သဘောတူလက်မှတ် ရေးထိုးကြပါသည် -

| သတလ(၂)(ကိုယ်စား) | ကန်ထရိုက်တာ(ကိုယ်စား) |
|---|---|
| သံဒိုင် | ကျော်အောင် |
| ဦးဆောင်ညွှန်ကြားရေးမှူး | ဥက္ကဋ္ဌ |
| အမှတ်(၂)သတ္တုတွင်းလုပ်ငန်း | ရွှေမိုးယံကုမ္ပဏီလီမိတက်၊ |
| သတ္တုတွင်းဝန်ကြီးဌာန | အမှတ်(၂၆/၃)၊ မြေညီထပ်၊ နဝဒေးလမ်း၊ |
| နေပြည်တော် | ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့၊ |
| | ဖုန်း၊ ၀၉-၈၆၃၄၁၅၃၊ ၀၉-၅၀၁၇၉၉၀ |

**အသိသက်သေများ**

| (၁) | | (၂) | |
|---|---|---|---|
| ၁။ အမည် | - [illegible] | ၁။ အမည် | - ဦးကျော်ဝင်းလှိုင် |
| ၂။ ရာထူး | - ညွှန်ကြားရေးမှူး | ၂။ ရာထူး | - ဒါရိုက်တာ |
| ၃။ မှတ်ပုံတင်အမှတ် | - ၇/ပခန(နိုင်)၀၀၃၅၅၈ | ၃။ မှတ်ပုံတင်အမှတ် | - ၉/မနမ(နိုင်)၁၀၂၁၇၁ |
| ၄။ ဌာန / နေရပ် | အမှတ်(၂)သတ္တုတွင်းလုပ်ငန်း | ၄။ ကုမ္ပဏီ | - ရွှေမိုးယံကုမ္ပဏီလီမိတက် |

| (၃) | | (၂) | |
|---|---|---|---|
| ၁။ အမည် | - ဦးထိန်ဝင်း | ၁။ အမည် | - ဦးထွန်းဝင်းဦး |
| ၂။ ရာထူး | - ညွှန်ကြားရေးမှူး | ၂။ ရာထူး | - ဒါရိုက်တာ |
| ၃။ မှတ်ပုံတင်အမှတ် | - ၁၀/ဘလန(နိုင်)၀၀၄၇၅၂ | ၃။ မှတ်ပုံတင်အမှတ် | - ၉/ရတရ(နိုင်)၀၇၅၃၆၈ |
| ၄။ ဌာန / နေရပ် | - အမှတ်(၂)သတ္တုတွင်းလုပ်ငန်း | ၄။ ကုမ္ပဏီ | - ရွှေမိုးယံကုမ္ပဏီလီမိတက် |

# ရွှေဒိုးယဲတုမှုကိစ္စ(လုပ်ကွက်-၆)အတွက်ပေးသွင်းရမည့်ရွှေစာရင်း

နိုင်ငြိသက်တမ်း ၁၆.၉.၂၀၀၁ မှ ၁၅.၉.၂၀၁၀ ထိ

(၈)နှစ်အတွက်ပေးသွင်းရမည့်ရွှေစင် ၅.၁၁၇ မက်ထရစ်တန်

ရေတွက်ပုံ-ပိဿာ

| စဉ် | လအမည် | ၂၀၀၁-၂၀၀၂ | ၂၀၀၂-၂၀၀၃ | ၂၀၀၃-၂၀၀၄ | ၂၀၀၄-၂၀၀၅ | ၂၀၀၅-၂၀၀၆ | ၂၀၀၆-၂၀၀၇ | ၂၀၀၇-၂၀၀၈ | ၂၀၀၈-၂၀၀၉ | ၂၀၀၉-၂၀၁၀ | စုစုပေါင်း |
|---|---|---|---|---|---|---|---|---|---|---|---|
| ၁ | ဧပြီ | | | | ၁.၅၀၀၀ | ၂.၆၀၀၀ | ၇.၆၅၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | ၂၈၇.၇၅၀၀ |
| ၂ | မေ | | | ၂.၀၁၀၀ | ၁.၅၀၀၀ | ၂.၆၀၀၀ | ၇.၆၅၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | ၂၈၉.၇၆၀၀ |
| ၃ | ဇွန် | | | | ၁.၅၀၀၀ | ၂.၆၀၀၀ | ၇.၆၅၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | ၂၈၇.၇၅၀၀ |
| ၄ | ဇူလိုင် | | | | ၁.၅၀၀၀ | ၂.၆၀၀၀ | ၇.၆၅၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | ၂၈၇.၇၅၀၀ |
| ၅ | ဩဂုတ် | | | | ၁.၅၀၀၀ | ၂.၆၀၀၀ | ၇.၆၅၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | ၂၈၇.၇၅၀၀ |
| ၆ | စက်တင်ဘာ | | | | ၁.၅၀၀၀ | ၂.၆၀၀၀ | ၇.၆၅၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | ၁၆၆.၉၀၆၉ | ၃၆၂.၆၅၆၉ |
| ၇ | အောက်တိုဘာ | | | ၂.၀၃၃၀ | ၁.၅၀၀၀ | ၂.၆၀၀၀ | ၇.၆၅၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | | ၁၉၇.၇၈၃၀ |
| ၈ | နိုဝင်ဘာ | | | | ၁.၅၀၀၀ | ၂.၆၀၀၀ | ၇.၆၅၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | | ၁၉၅.၇၅၀၀ |
| ၉ | ဒီဇင်ဘာ | | | ၅.၀၀၀၀ | ၁.၅၀၀၀ | ၂.၆၀၀၀ | ၇.၆၅၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | | ၂၀၀.၇၅၀၀ |
| ၁၀ | ဇန်နဝါရီ | | | ၅.၁၀၀၀ | ၂.၆၀၀၀ | ၇.၆၅၀၀ | ၄၆.၀၀၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | | ၂၄၅.၃၅၀၀ |
| ၁၁ | ဖေဖော်ဝါရီ | | | ၅.၀၀၁၈ | ၂.၆၀၀၀ | ၇.၆၅၀၀ | ၄၆.၀၀၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | | ၂၄၅.၂၅၁၈ |
| ၁၂ | မတ် | | | ၅.၀၇၄၀ | ၂.၆၀၀၀ | ၇.၆၅၀၀ | ၄၆.၀၀၀၀ | ၉၂.၀၀၀၀ | ၉၂.၀၀၀၀ | | ၂၄၅.၃၂၄၀ |
| | စုစုပေါင်း | | | ၂၄.၂၁၈၈ | ၂၁.၃၀၀၀ | ၄၆.၃၅၀၀ | ၂၀၆.၈၅၀၀ | ၁၁၀၄.၀၀၀၀ | ၁၁၀၄.၀၀၀၀ | ၆၂၆.၉၀၆၉ | ၃၁၃၃.၆၂၅၇ |

၁ မက်ထရစ်တန် = ၆၁၂.၃၉၅၁ ပိဿာ
၁ ကီလိုဂရမ် = ၀.၆၁၂၃၉ ပိဿာ
၅.၁၁၇ မက်ထရစ်တန် = ၃၁၃၃.၆၂၅၇ ပိဿာ

SECOND ORIGINAL

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# သတ္တုတွင်းဝန်ကြီးဌာန

# အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

နှင့်

ရွှေမိုးယံကုမ္ပဏီလီမိတက်

တို့၏

မန္တလေးတိုင်းဒေသကြီး၊ ရမည်းသင်းမြို့နယ်၊ ဝါးဖြူတောင်ဒေသ

ရွှေလုပ်ကွက်(B)

အား

ရွှေသတ္တုအကြီးစားထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်လုပ်ငန်း

# သဘောတူစာချုပ်အား

# ပြင်ဆင်ချက်သဘောတူစာချုပ်

ကန့်သတ်

Shwe Moe Yan Company Limited

# ရွှေသတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်လုပ်ငန်း

# ပြင်ဆင်ချက်သဘောတူစာချုပ်

ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို ၂၀၁၃ခုနှစ်၊ ဒီဇင်ဘာ လ၊ ( ၂၆ )ရက်နေ့တွင် ဦးသံဒိုင်၊ ခေတ္တဦးဆောင်ညွှန်ကြားရေးမှူးကိုယ်စားပြုသော အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၊ သတ္တုတွင်းဝန်ကြီးဌာန၊ (နောင်တွင် "သတလ(၂)"ဟုခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌၎င်းအားဆက်ခံသူများ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်)ကတစ်ဖက်နှင့် ဦးကျော်အောင်၊ နိုင်ငံသားစိစစ်ရေးအမှတ်၊ ၉/မနမ(နိုင်)၁၀၂၇၃၊ ဥက္ကဋ္ဌ၊ ကိုယ်စားပြုသော ရွှေမိုးယံကုမ္ပဏီလီမိတက်၊ အမှတ်(၁၃၅-ဘီ)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။(နောင်တွင်"ကန်ထရိုက်တာ"ဟု ခေါ်ဆိုမည်ဖြစ်ပြီးယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်)က တခြားတစ်ဖက်တို့သည်-

(က) မန္တလေးတိုင်းဒေသကြီး၊ ရမည်းသင်းမြို့နယ်၊ ဝါးဖြူတောင်ဒေသ၊ လုပ်ကွက်(B)မှ ရွှေသတ္တုများ တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းအားဆောင်ရွက်ရန် (၁၆.၉.၂၀၁၁) ရက်နေ့တွင် နှစ်ဘက်သဘောတူစာချုပ်ချုပ်ဆိုခဲ့ပါသည်။

(ခ) ကန်ထရိုက်တာမှ ရွှေသတ္တုအကြီးစားထုတ်လုပ်ရန်အတွက် ထူထောင်မှုကာလ လုံလောက်မှုမရှိ၍လည်းကောင်း၊ နိုင်ငံတကာအဆင့်မီ သတ္တုတွင်းတစ်ခု ထူထောင်ရာတွင် ခေတ်မီနည်းပညာနှင့် အရင်းအနှီးကြီးမားစွာထည့်ဝင်ရန်လိုအပ်သဖြင့် ပြည်ပမှ နိုင်ငံတကာနည်းပညာနှင့် အကူအညီများဖိတ်ခေါ်ပြီး ရေရှည်လုပ်ကိုင်နိုင်သော သတ္တုတွင်းတစ်ခု ဖြစ်ပေါ်လာစေရေးအတွက်လည်းကောင်း နိုင်ငံတော်သမ္မတရုံးသို့ တင်ပြခဲ့ပါသည်။

(ဂ) ကန်ထရိုက်တာ၏ တင်ပြချက်အရ နိုင်ငံတော်သမ္မတရုံးမှ ခွင့်ပြုသက်တမ်းအား မြန်မာ့သတ္တုတွင်းနည်းဥပဒေအပိုဒ်(၂၅-စ)နှင့်အညီ ဆောင်ရွက်ရန် လမ်းညွှန်ခဲ့ပါသည်။

(ဃ) နိုင်ငံတော်သမ္မတရုံး၏ လမ်းညွှန်ချက်အရ ပုတ်ပြတ်စနစ်ဖြင့် ခွင့်ပြုခဲ့သည့် (၅)နှစ်အစား (၈)နှစ်ဖြင့်လည်းကောင်း၊ ကျန်(၁၇)နှစ်အား ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့်လည်းကောင်း ချုပ်ဆိုရန် ဆောင်ရွက်ခဲ့ခြင်းဖြစ်ပါသည်။

၁။ သို့ပါ၍ စာချုပ်ဝင်များသည် အောက်ပါစည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ရန် ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

၂။ မူလစာချုပ် အပိုင်း(၄)၊ လုပ်ပိုင်ခွင့်ရှိသောလုပ်ကွက် ခေါင်းစဥ်အောက်ရှိ အပိုဒ် ၄-၂ အား ပယ်ဖျက်၍ အောက်ပါအပိုဒ်ဖြင့် အစားထိုးရမည်-

၄-၂။ အကယ်၍အထက်အပိုဒ် ၄-၁ တွင် ဖော်ပြထားသောလုပ်ကွက်ကို နိုင်ငံတော်အစိုးရမှ ဓာတ်သတ္တုတူးဖော်ထုတ်လုပ်ရေးမှအပ အခြားစီမံကိန်းတစ်ခုခုအလို့ငှာ အသုံးပြုရန်လိုအပ်ခဲ့လျှင် ကန်ထရိုက်တာဖြစ်သူက မိမိလက်ဝယ်ရယူထားသောလုပ်ကွက်ကို အစိုးရသို့ ပြန်လည်အပ်နှံရမည်ဖြစ်ပြီး ကန်ထရိုက်တာနစ်နာမှုမရှိစေရန် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။

၃။ မူလစာချုပ် အပိုင်း(၆)၊ လုပ်ငန်းသုံးစက်ကရိယာများ ခေါင်းစဥ်အောက်ရှိ အပိုဒ် ၆-၁ အား ပယ်ဖျက်၍ အောက်ပါအပိုဒ်ဖြင့် အစားထိုးရမည်-

၆-၁။ ကန်ထရိုက်တာသည် တူးဖော်မှုလုပ်ငန်းအတွက် အသုံးပြုမည့်စက်၊ စက်ပစ္စည်းများ၊ ယာဥ်ယန္တရားများကို ပြည်ပမှ တင်သွင်းရန်ရှိပါက သတ္တုတွင်းဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ လုပ်ထုံးလုပ်နည်းနှင့်အညီ တင်သွင်းဆောင်ရွက်ရမည်။

Shwe Moe Yan Company Limited

၄။ မူလစာချုပ် အပိုင်း(၈)၊ ထုထောင်မှုနှင့်တူးဖော်ထုတ်လုပ်ခြင်း ခေါင်းစဉ်အောက်ရှိအပိုဒ် ၈-၁ အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်-

၈-၁။ ကန်ထရိုက်တာသည် စာချုပ်ပါ လုပ်ငန်းများအကောင်အထည်ဖော်ရာတွင် နိုင်ငံတကာမှလက်ခံကျင့်သုံးသည့် သတ္တုတူးဖော်ထုတ်လုပ်မှုနည်းပညာအဆင့်အတန်းများနှင့်အညီ အထိရောက်ဆုံးလုပ်ကိုင်ဆောင်ရွက်နိုင်ရန် နိုင်ငံတကာမှအတတ်ပညာ၊ အရင်းအနှီးနှင့်စက်ပစ္စည်းများကို ဖိတ်ခေါ်ဆောင်ရွက်နိုင်ခွင့်ကိစ္စနှင့်ပတ်သက်၍ သတ္တုတွင်းဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့်ဆောင်ရွက်နိုင်သည်။

၅။ မူလစာချုပ် အပိုင်း(၉)၊ စာချုပ်သက်တမ်း ခေါင်းစဉ်အောက်ရှိ အပိုဒ် ၉ အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်-

၉။ ဤသဘောတူစာချုပ်အရ ရွှေသတ္တုအကြီးစားတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် ခွင့်ပြုသည့်ကာလမှာ သက်တမ်း(၂၅)နှစ်ဖြစ်သည်။ သက်တမ်းတိုးမြှင့်ရန် လိုအပ်ပါက သတ်မှတ်ထားသောခွင့်ပြုကာလမကုန်ဆုံးမီ (၆)လ ကြိုတင်၍ သတလ(၂)သို့ တင်ပြရမည်။ သတလ(၂)မှ သဘောတူလျှင် သက်တမ်း(၅)နှစ် တိုးမြှင့်နိုင်သည်။

၆။ မူလစာချုပ် အပိုင်း(၁၀)၊ အထွေထွေတာဝန်များ ခေါင်းစဉ်အောက်ရှိ အပိုဒ် ၁၀-၁ ၏အပိုဒ်ခွဲ (က)(ခ)(ဂ)(ဒ) တို့အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်များဖြင့် အစားထိုးရမည်-

(က) ဓာတ်သတ္တုခွန် (၅%)အပါအဝင်ပေးသွင်းရမည့် ရွှေစင်(၉၉.၉၉%)ပါဝင်သောရွှေစင်သတ္တု(၅.၁၁၇) မက်ထရစ်တန်အား ကနဦးသတ်မှတ်ခွင့်ပြုကာလ(၈)နှစ်အတွင်း ပုတ်ပြတ်စနစ်ဖြင့် အပြည့်အဝပေးသွင်းရမည်။

(ခ) နိုင်ငံတော်သို့ပုတ်ပြတ်စနစ်ဖြင့် ပေးသွင်းရမည့် (၈)နှစ်စာရွှေစင်(၅.၁၁၇)မက်ထရစ်တန်မှ ရွှေစင်(၂၀၈.၉၅၆၈)ပိဿာအား ထုထောင်မှုကာလအတွင်း ပူးတွဲဇယား(၁)ပါအတိုင်း အပြည့်အဝပေးသွင်းရမည်။ ထုတ်လုပ်မှုကာလအတွက် ပေးသွင်းရမည့်ရွှေစင် (၂၉၂၀.၆၂၅၉)ပိဿာအား ပူးတွဲဇယား(၂)ပါအတိုင်း စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မတိုင်မီ အပြည့်အဝ ပေးသွင်းရမည်။

(ဂ) မည်သို့သောအကြောင်းကြောင့် ဖြစ်ပေါ်စေကာမူ နိုင်ငံတော်အား ပေးသွင်းရမည့် သတ်မှတ်ရွှေစင်ပမာဏအား အပြည့်အဝပေးသွင်းရမည်။ စာချုပ်ပါစည်းကမ်းများအတိုင်း မပေးသွင်းပါက တည်ဆဲတရားဥပဒေများနှင့်အညီ အရေးယူခြင်းခံရမည့်အပြင် မြေခွန်မပြေ ကျန်ငွေဖြစ်ဘိသကဲ့သို့ ကောက်ခံခြင်းခံရမည်။

(ဒ) ရွှေသတ္တုတူးဖော်ခြင်းမှထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများကြောင့် မြစ်ချောင်း၊ အင်းအိုင်များကို ပိတ်ဆို့ခြင်း၊ ရေစီးလမ်းပြောင်းလဲခြင်း၊ အများပြည်သူအသုံးပြုသော ရေရရှိနိုင်မှုတို့ကို ထိခိုက်စေခြင်းများမရှိစေရ၊ ပျက်စီးမှုများဖြစ်ပေါ်ပါက သက်ဆိုင်ရာဥပဒေပြဋ္ဌာန်း ချက်များနှင့်အညီ အရေးယူခြင်းခံရမည်။

၇။ မူလစာချုပ် အပိုင်း(၁၀)၊ အထွေထွေတာဝန်များ ခေါင်းစဉ်အောက်ရှိ အပိုဒ် ၁၀-၁ တွင် အပိုဒ်ခွဲ(မ)အဖြစ် အောက်ပါစာပိုဒ်အား ထပ်မံဖြည့်စွက်ရမည်-

(မ) ပုတ်ပြတ်စနစ်ဖြင့် ပေးသွင်းရမည့်(၈)နှစ် ပြီးဆုံးပြီးနောက် ကျန်ကာလ(၁၇)နှစ်တွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး ယင်းကာလ၌ ပေးသွင်းရမည့်အချိုးကို ကန်ထရိုက်တာမှ အပြည့်အဝပေးသွင်းရမည်။

Shwe Moe Yan Company Limited.

၈။ မူလစာချုပ် အပိုင်း(၁၀)၊ အထွေထွေတာဝန်များ ခေါင်းစဉ်အောက်ရှိ အပိုဒ် ၁၀-၂ ၏အပိုဒ်ခွဲ(စ)အား ပယ်ဖျက်ရမည်။

၉။ မူလစာချုပ် အပိုင်း(၁၁)၊ ဓာတ်သတ္တုခွန်နှင့်ပုံသေမြေငှားရမ်းခ ခေါင်းစဉ်အောက်ရှိ အပိုဒ်များအား ပယ်ဖျက်၍ အောက်ပါစာပိုဒ်များဖြင့် အစားထိုးရမည်-

၁၁-၁။ အပိုဒ်၁၀-၁(က)အရ ကန်ထရိုက်တာမှ ပေးသွင်းရမည့် ဓာတ်သတ္တုခွန် ၅% ကို သ.တ.လ(၂)မှ တစ်ဆင့် နိုင်ငံတော်သို့ ပေးဆောင်ရမည်။

၁၁-၂။ ကန်ထရိုက်တာသည် ပုံသေမြေငှားရမ်းခ (Dead Rent)ကိုမြန်မာ့သတ္တုတွင်းဥပဒေ၊ နည်းဥပဒေပါ ပြဋ္ဌာန်းချက်များအရ သတ္တုတွင်းဝန်ကြီးဌာနမှ သတ်မှတ်ထားသည့်ကာလများအလိုက် နှုန်းထားများ အတိုင်း သတ္တုတွင်းဦးစီးဌာနသို့ ပေးဆောင်ရမည်။

၁၀။ မူလစာချုပ် အပိုင်း(၁၂)အား ပယ်ဖျက်၍ အောက်ပါအတိုင်း အစားထိုးရမည်-

## အပိုင်း(၁၂)

## ဆောင်ရွက်မည့်အစီအစဉ်

၁၂-၁။ စာချုပ်သက်တမ်း(၈)နှစ်ကို ပုတ်ပြတ်စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်သည်။

၁၂-၂။ ကျန်ကာလ(၁၇)နှစ်တွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့်အောက်ပါအတိုင်း လစဉ်အချိုးကျခွဲဝေခံစားရမည်-

| | | |
|---|---|---|
| သတလ(၂)(ဓာတ်သတ္တုခွန်အပါအဝင်) | : | ကန်ထရိုက်တာ |
| ၃၀% | : | ၇၀% |

၁၂-၃။ အထက်ပါ အပိုဒ် ၁၂-၂ ပါ ခွဲဝေမှုအချိုးကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်၏သဘောတူညီချက်နှင့်အညီ ပြင်ဆင်နိုင်သည်။

၁၁။ မူလစာချုပ် အပိုင်း(၁၄)အား ပယ်ဖျက်၍ အောက်ပါအတိုင်း အစားထိုးရမည်-

၁၄-၁။ ကန်ထရိုက်တာသည် သန့်စင်ပြီးသောရွှေစင်သတ္တုများကိုသတ်မှတ်ထားသည့် လုံခြုံရေးစိတ်ချရသောနေရာ ၊သိုလှောင်ခန်း၊ အာမခံသေတ္တာတွင် သေချာစွာထည့်သွင်းထားရမည်။

၁၄-၂။ သတလ(၂)မှရရှိမည့်ရွှေစင်သတ္တုများကို သတလ(၂)မှသတ်မှတ်ထားသောနေရာတွင် ကန်ထရိုက်တာမှ လွှဲပြောင်းပေးရမည်။

၁၄-၃။ အပိုဒ်၁၂အရ ကန်ထရိုက်တာမှ ရရှိသောရွှေစင်သတ္တုများအား သယ်ယူခြင်းကို သတ္တုတွင်းဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ လွတ်လပ်စွာဆောင်ရွက်နိုင်သည်။ ရွှေစင်သတ္တုများအား သတ္တုတွင်းဝန်ကြီးဌာန၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လွတ်လပ်စွာရောင်းချနိုင်သည်။

၁၂။ မူလစာချုပ် အပိုင်း(၂၀)အား ပယ်ဖျက်၍ အောက်ပါ စာပိုဒ်များဖြင့် အစားထိုးရမည်-

၂၀-၁။ ရွှေသတ္တုထုတ်လုပ်မှုနှင့် သက်ဆိုင်သည့် လုပ်ငန်းများအောင်မြင်ရေးနှင့် စာချုပ်ပါလုပ်ငန်းရပ်များ အကောင်အထည်ဖော်နိုင်ရေးတို့အတွက် သတလ(၂)၏ စစ်ဆေးခြင်းကို ကန်ထရိုက်တာမှ ခံယူရမည်။

Shwe Moe Yan Company Limited

၂၀-၂။ ဆုံးဖြတ်ရန်ခက်ခဲသည့် (သို့မဟုတ်) မဆုံးဖြတ်နိုင်သည့် ကိစ္စရပ်များအား သတလ(၂)မှတဆင့် သတ္တုတွင်းဝန်ကြီးဌာနသို့ တင်ပြဆောင်ရွက်ရမည်။

၂၀-၃။ သတ္တုတွင်းဝန်ကြီးဌာနမှ အခါအားလျော်စွာ ချမှတ်ထားသော ဆုံးဖြတ်ချက်နှင့်အမိန့်များကို ကန်ထရိုက်တာမှ အရေးယူလိုက်နာဆောင်ရွက်ရမည်။

၁၃။ မူလစာချုပ် အပိုင်း(၂၁)၊ လုပ်ငန်းများကြီးကြပ်ဆောင်ရွက်ခြင်း ခေါင်းစဉ်အားပယ်ဖျက်၍ အောက်ပါခေါင်းစဉ်ဖြင့် အစားထိုးရမည်-

## အပိုင်း(၂၁)

## လုပ်ငန်းများကြီးကြပ်ဆောင်ရွက်ခြင်းနှင့်စီမံခန့်ခွဲခြင်း

၁၄။ မူလစာချုပ် အပိုင်း(၂၁)၏ အောက်တွင် အောက်ပါစာပိုဒ်များအား ထပ်မံဖြည့်စွက်ရမည်-

၂၁-၄။ သဘောတူစာချုပ်လက်မှတ်ရေးထိုးပြီးသည်နှင့် နှစ်ဦးနှစ်ဖက်မှ ပူးတွဲစီမံခန့်ခွဲရေးကော်မတီကို ဖွဲ့စည်းရမည်-

(က) ပူးတွဲစီမံခန့်ခွဲရေးကော်မတီတွင်အဖွဲ့ဝင်(၅)ဦးပါရှိရမည်ဖြစ်ပြီး၊ သတလ(၂)မှ (၃)ဦးနှင့် ကန်ထရိုက်တာမှ(၂)ဦး အဆိုပြုရမည်။ ဥက္ကဋ္ဌတာဝန်ကို သတလ(၂)မှ ဆောင်ရွက်ရမည်။ ဥက္ကဋ္ဌမှ ကော်မတီအတွင်းရေးမှူးတစ်ဦးဦးကို ခန့်ထားရမည်။ လိုအပ်ပါက နှစ်ဦးနှစ်ဘက် သဘောတူညီမှုဖြင့် အဖွဲ့ဝင်အင်အားကို တိုးချဲ့ဖွဲ့စည်းနိုင်သည်။

(ခ) ပူးတွဲစီမံခန့်ခွဲရေးကော်မတီတွင် အဖွဲ့ဝင်လစ်လပ်သွားလျှင် ၎င်းနေရာသို့ အဆိုပြုထားသည့် ဘက်မှအစားထိုးအဆိုပြုရမည်။

(ဂ) ပုံမှန်အဖွဲ့ဝင်မှတက်ရောက်နိုင်ခြင်းမရှိက ကိုယ်စားတက်ရောက်နိုင်ရန်အတွက် အလှည့်ကျ ပူးတွဲစီမံခန့်ခွဲရေးကော်မတီဝင်(၁)ဦး သို့မဟုတ် ပူးတွဲစီမံခန့်ခွဲရေးကော်မတီဝင်များကို နှစ်ဦးနှစ်ဖက်မှ ခန့်အပ်ထားရှိရမည်။

(ဃ) ပူးတွဲစီမံခန့်ခွဲရေးကော်မတီအဖွဲ့ဝင်ခန့်အပ်မှုများအား တစ်ဖက်မှတစ်ဖက်သို့ အသိပေးအကြောင်းကြားရမည်။

(င) ကော်မတီသည် နေပြည်တော် သို့မဟုတ် နှစ်ဖက်သဘောတူညီချက်ရရှိထားသော အခြားသင့်လျော်သည့် နေရာတွင် (၃)လတစ်ကြိမ် တွေ့ဆုံညှိနှိုင်းဆွေးနွေးရမည်။

(စ) ဥက္ကဋ္ဌနှင့်ကော်မတီဝင်များအတွက် အခကြေးငွေများ သို့မဟုတ် အခြားစရိတ်များကို စီမံခန့်ခွဲရေးကော်မတီမှ သတ်မှတ်အဆိုပြု၍ နှစ်ဖက်အတည်ပြုပြီး ကန်ထရိုက်တာမှ ပေးချေရမည်။

(ဆ) စီမံခန့်ခွဲရေးကော်မတီသည် ရွှေသတ္တုတူးဖော်ထုတ်လုပ်မှုနှင့်ပတ်သက်သော လုပ်ငန်းစဉ်များ၊ ဘဏ္ဍာရေးကိစ္စများ၊ စီမံခန့်ခွဲရေးကိစ္စများ၊ နည်းပညာဆိုင်ရာကိစ္စများအပါအဝင် ဤသဘောတူစာချုပ်ပါ လုပ်ငန်းတစ်ရပ်ရပ်ကို ဝန်ကြီးဌာနမှ ချမှတ်သည့်လုပ်ငန်းစဉ်များအတိုင်း ညှိနှိုင်းဆောင်ရွက်ရမည်။

(ဇ) ပူးတွဲစီမံခန့်ခွဲရေးကော်မတီဥက္ကဋ္ဌမှ လိုအပ်ချက်အရ အစည်းအဝေးတက်ရောက်ရန် ဖိတ်ကြားခံရသူများကိုလည်း အခြားကော်မတီအဖွဲ့ဝင်များကဲ့သို့ ပူးတွဲစီမံခန့်ခွဲရေးကော်မတီအစည်းအဝေးကို တက်ရောက်ခွင့်ရှိစေရမည်။

၂၁-၅။ ပူးတွဲစီမံခန့်ခွဲရေးကော်မတီဥက္ကဋ္ဌသည် ဖက်စပ်ကုမ္ပဏီ၏ တရားဝင်ကိုယ်စားပြုသူဖြစ်သည်။ ဥက္ကဋ္ဌသည် အကြောင်းတစ်ခုခုကြောင့် ၎င်း၏တာဝန်ဝတ္တရားများအား မဆောင်ရွက်နိုင်ပါက ၎င်း၏ ကိုယ်စားဆောင်ရွက်မည့်ပူးတွဲစီမံခန့်ခွဲရေးကော်မတီဝင်တစ်ဦးအားတာဝန်ပေးရမည်။ အဖွဲ့အတွင်း မဲခွဲဆုံးဖြတ်ရန်များရှိ၍ မဲခွဲဆုံးဖြတ်ရာတွင် တစ်ဖက်နှင့်တစ်ဖက် မဲတူညီနေပါကဥက္ကဋ္ဌ၏ အဆုံး အဖြတ်သည် အတည်ဖြစ်သည်။

၂၁-၆။ ကော်မတီအဖွဲ့သည်ကန်ထရိုက်တာ၏မူ၊ ဦးတည်ချက်၊ လုပ်ထုံးလုပ်နည်းများနှင့် နည်းစနစ်များအား ဆုံးဖြတ်ရမည်ဖြစ်ပြီး၊ အောက်ပါအချက်များနှင့်ပတ်သက်သော အဓိကဆုံးဖြတ်ချက်များအပေါ် တာဝန်ရှိစေရမည်-

(က) ကန်ထရိုက်တာ၏နှစ်စဉ်၊ လစဉ်လုပ်ငန်းအစီအစဉ်များနှင့် လုပ်ငန်းအသုံးစရိတ်များအား အတည်ပြုခြင်း။

(ခ) ကန်ထရိုက်တာမှတင်ပြသည့် ထုတ်လုပ်မှုစီမံချက်များ၊ နှစ်ပတ်လည်အစီရင်ခံစာများနှင့် ရှေ့လုပ်ငန်းမျှော်မှန်းချက်များစသည့် အစီရင်ခံစာများအားအတည်ပြုခြင်း။

(ဂ) ထုတ်လုပ်မှုများ၊ တန်ဖိုးတွက်ချက်မှုများ၊ ခွဲဝေမှုများအားအတည်ပြုခြင်း။

(ဃ) ဖြစ်ပေါ်လာသည့် အခက်အခဲပြဿနာများအား ညှိနှိုင်းဆွေးနွေးခြင်း။

၁၅။ မူလစာချုပ် အပိုင်း(၂၂)အား ပယ်ဖျက်၍ အောက်ပါအတိုင်း အစားထိုးရမည်-

## အပိုင်း(၂၂)

## လုံခြုံမှုအာမခံစပေါ်ငွေ

၂၂-၁။ ကန်ထရိုက်တာသည် ဤစာချုပ်လက်မှတ်ရေးထိုးပြီးနောက် ရက်ပေါင်း(၃၀)အတွင်း လုံခြုံမှုအာမခံ စပေါ်ငွေ (Security Deposit)အဖြစ် ကျပ် ၁၀,၀၀၀,၀၀,၀၀၀/- (ကျပ်သန်းတစ်ထောင်တိတိ)ကို အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၏ စာရင်းရှင်ငွေစာရင်းတွင်စာချုပ်သက်တမ်း တိုးမြှင့်သည့်ကာလ အထိ (သို့မဟုတ်) ကန်ထရိုက်တာမှ စာချုပ်ပါတာဝန်ဝတ္တရားများအားလုံးဆောင်ရွက်ပြီးစီးသည့် အထိ စာချုပ်သက်တမ်းတစ်လျှောက် ထားရှိရမည်။

၂၂-၂။ ဤစာချုပ်ပါသဘောတူညီချက်များအတိုင်း ဆောင်ရွက်ရန် ကန်ထရိုက်တာမှ ပျက်ကွက်ခဲ့လျှင် အပိုဒ်(၂၃)ပါအတိုင်း စာချုပ်ကိုရပ်စဲ၍ သတလ(၂)မှ လုံခြုံမှုအာမခံစပေါ်ငွေကို စည်းကမ်းချက် တစ်စုံတစ်ရာမရှိဘဲ မည်သည့်တရားရုံးသို့မျှ သွားရန်မလိုအပ်ဘဲ သိမ်းယူနိုင်သည်။ စာချုပ် သက်တမ်းကုန်ဆုံးလျှင်သော်လည်းကောင်း၊ ကန်ထရိုက်တာ၏အပြစ်ကြောင့် မဟုတ်ဘဲ တစ်စုံတစ် ရာသောအကြောင်းကြောင့် နှစ်ဖက်သဘောတူစာချုပ် ဖျက်သိမ်းလျှင်သော်လည်းကောင်း၊ သတလ (၂)သည် ကန်ထရိုက်တာမှ ပေးရန်ကျန်ရှိသော ကြွေးမြီများကို နှုတ်ယူ၍ ကျန်သည့် လုံခြုံမှုအာမခံ စပေါ်ငွေကို ကန်ထရိုက်တာသို့ ပြန်ပေးရမည်။

၂၂-၃။ လုံခြုံမှုအာမခံစပေါ်ငွေသည် စာချုပ်သက်တမ်းတလျှောက် ထားရှိသွားရမည်ဖြစ်ပြီး လစဉ် လတစ် လ၏နောက်ဆုံးပတ်တွင် သတ်မှတ်ရွေစင်မပေးသွင်းနိုင်မှုအပေါ် လုံခြုံမှုအာမခံစပေါ်ငွေမှ နှုတ်ယူ ခြင်းအား ဌာနမှ Check List ဖြင့် လစဉ်စစ်ဆေးမှုများပြုလုပ်သွားမည်ဖြစ်သည်။ လျော့နည်း သွားသော လုံခြုံမှုအာမခံစပေါ်ငွေကို ကန်ထရိုက်တာမှ သတလ(၂)သို့ သတ်မှတ်သည့်ရက် အတွင်း ပေးသွင်းရမည်။

Shwe Moe Yan Company Limited.

၁၆။ မူလစာချုပ် အပိုင်း(၂၅)မှ စာပိုဒ် ၂၅-၁ အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်-

၂၅-၁။ ကန်ထရိုက်တာသည် ဤစာချုပ်ပါလုပ်ငန်းနှင့်ပတ်သက်သည့် မှတ်တမ်းများ၊ ငွေစာရင်းများစသည်တို့ကို မြန်မာနိုင်ငံစာရင်းအင်းကောင်စီမှ ထုတ်ပြန်ထားသည့် နည်းများအရ စာရင်းများ ထိန်းသိမ်းထားရှိရန် တာဝန်ရှိသည်။ စာရင်းဇယားများကို မြန်မာဘာသာဖြင့်ထားရှိရမည်။ ကန်ထရိုက်တာ၏ နှစ်ချုပ်စာရင်းများကို ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီး (၃)လအတွင်း သတလ(၂)သို့ တင်ပြရမည်။

၁၇။ မူလစာချုပ် အပိုင်း(၂၉)၊ အထွေထွေခေါင်းစဉ်အောက်ရှိ အပိုဒ် ၂၉-၁ အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်-

၂၉-၁။ စာချုပ်သက်တမ်းကုန်ဆုံးလျှင်သော်လည်းကောင်း၊ အခြားအကြောင်းတစ်ရပ်ရပ်ကြောင့် လုပ်ငန်းရပ်စဲ၍ စာချုပ်ဖျက်သိမ်းလျှင်သော်လည်းကောင်း၊ ရွှေသတ္တုထုတ်လုပ်ရန်ခွင့်ပြုမိန့်အား သတလ(၂)မှတဆင့် သတ္တုတွင်းဝန်ကြီးဌာနသို့ ပြန်လည်အပ်နှံရမည်။ အကယ်၍သတလ(၂)မှ ခွင့်ပြုမိန့် ပြန်လည်အပ်နှံရန် အကြောင်းကြားသော်လည်း ထုတ်ပေးထားသည့် ခွင့်ပြုမိန့်အား ပြန်လည်အပ်နှံရန်ပျက်ကွက်ပါက ကုမ္ပဏီအား သတ္တုတွင်းဝန်ကြီးဌာန၏ မည်သည့်လုပ်ငန်းကိုမှ လုပ်ကိုင်ခြင်း ခွင့်မပြုသည့် ပြစ်ဒဏ်ခံရမည်။

၁၈။ မူလစာချုပ် အပိုင်း(၃၁)အဖြစ် အောက်ပါအပိုင်း၊ ခေါင်းစဉ်နှင့် စာပိုဒ်များကို ထပ်မံဖြည့်စွက်ရမည်-

## အပိုင်း ( ၃၁ )

## သဘာဝပတ်ဝန်းကျင်ထိခိုက်မှုလေ့လာဆန်းစစ်ချက်နှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက်၊ လူမှုပတ်ဝန်းကျင် ထိခိုက်မှုဆိုင်ရာလေ့လာဆန်းစစ်ချက်နှင့် လူမှုပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းစီမံချက်

**သဘာဝပတ်ဝန်းကျင်ထိခိုက်မှုလေ့လာဆန်းစစ်ချက်နှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်**

ကန်ထရိုက်တာသည်-

၃၁-၁။ သဘာဝပတ်ဝန်းကျင်၊ လူမှုပတ်ဝန်းကျင်ထိခိုက်မှုလေ့လာဆန်းစစ်ချက်အစီရင်ခံစာများကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ လက်ခံကျင့်သုံးသည့်စံချိန်စံညွှန်းများနှင့်အညီ ကျိုးကြောင်းဆီလျော်သည့် ကာလတစ်ခုအတွင်း ပြီးပြည့်စုံအောင် ပြန်လည်၍ အသစ်ရေးဆွဲပြုစုရမည်။

၃၁-၂။ စီမံကိန်းဧရိယာနှင့်ပတ်ဝန်းကျင်ဧရိယာများ၏ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် တာဝန်ယူရမည်။ ရွှေသတ္တုတူးဖော်ထုတ်လုပ်သည့်လုပ်ငန်းကြောင့် ဖြစ်ပေါ်လာသည့် မြေသုံးစွဲမှုပြဿနာ၊ လူမှုစီးပွားရေးဆိုင်ရာပြဿနာ၊ ဂေဟဗေဒနမ်ဆိုင်ရာပြဿနာ၊ လေထုညစ်ညမ်းမှုနှင့် အသံဆူညံမှု၊ တုန်ခါမှု၊ ရှခင်းရှုကွက်ကိုထိခိုက်ပျက်ယွင်းစေသည့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုနှင့် ဆက်စပ်ပတ်သက်သည့် အကြောင်းချင်းရာကို ကန်ထရိုက်တာမှ စီမံထိန်းသိမ်းဆောင်ရွက်ရမည်။

၃၁-၃။ ပတ်ဝန်းကျင်ထိခိုက်မှုလေ့လာဆန်းစစ်ချက်သည် စွန့်စားရမှုကင်းသည့်"မူ"ကို အခြေခံ၍ စီမံကိန်းသက်တမ်းပြည့်မီအောင်ဖြစ်စေရန်အတွက် ထိရောက်မှုရှိသောပုံစံဖြင့် ဆောင်ရွက်ပေးရမည်။ သဘာဝပတ်ဝန်းကျင် လေ့လာဆန်းစစ်ချက်လုပ်ငန်းစဉ်များကို ကျင့်သုံး၍ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ လုပ်ငန်းစီမံချက်ကို ရှင်းလင်းတိကျစွာ ရေးဆွဲသတ်မှတ်ထားရှိရမည်။

Shwe Moe Yan Company Limited.

၁၁-၄။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (EMP)တွင်အောက်ပါလုပ်ငန်းစဥ်များပါဝင်မည် -

(က) အမှုန်အမွှားထိန်းသိမ်းရေးလုပ်ငန်းစဥ်

(ခ) အသံဆူညံမှုထိန်းသိမ်းရေးလုပ်ငန်းစဥ်

(ဂ) လုပ်ငန်းသုံးရေနှင့်စွန့်ပစ်ရေထိန်းသိမ်းရေးလုပ်ငန်းစဥ်

(ဃ) တိုက်စားမှုနှင့်အနည်ထိုင်စုပုံမှုများထိန်းသိမ်းရေးလုပ်ငန်းစဥ်

(င) စွန့်ပစ်ကျောက်များထိန်းသိမ်းရေးလုပ်ငန်းစဥ်

(စ) ဘေးဖြစ်စေတတ်သောပစ္စည်းများထိန်းသိမ်းရေးလုပ်ငန်းစဥ်

(ဆ) အထွေထွေစွန့်ပစ်ပစ္စည်းများထိန်းသိမ်းရေးလုပ်ငန်စဥ်

(ဇ) လုပ်ကွက်မြေနေရာအားပြန်လည်ထူထောင်ရေးလုပ်ငန်းစဥ်

(ဈ) သတ္တုတွင်းအားပြန်လည်အပ်နှံရေးနှင့်သတ္တုတွင်းပိတ်သိမ်းရေးလုပ်ငန်းစဥ်

၁၁-၅။ လုပ်ကွက်မြေနေရာပြန်လည်ထူထောင်ရေး၊ သတ္တုတွင်းပြန်လည်အပ်နှံရေးနှင့် သတ္တုတွင်းပိတ်သိမ်းရေးလုပ်ငန်းစဥ်များသည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက်အစိတ်အပိုင်းဖြစ်ပြီး၊ ၎င်းတွင်ပိတ်သိမ်းမှုလုပ်ငန်းအားလုံး၏ အသေးစိတ်နည်းစနစ်များပါဝင်သည်။ ကန်ထရိုက်တာအနေဖြင့် ဘဏ္ဍာရေးဆိုင်ရာစီမံခန့်ခွဲမှုများပါဝင်သော သတ္တုတွင်းပိတ်သိမ်းမှုဆိုင်ရာ လုပ်ငန်းအစီအစဥ်အား သတ္တုတွင်းဝန်ကြီးဌာနသို့ တင်ပြရမည်။ စီးပွားဖြစ်ထုတ်လုပ်မှုကာလတစ်လျှောက်လုံးတွင် မြေယာပြန်လည်ဖော်ထုတ်ခြင်း၊ ပြုပြင်ခြင်းလုပ်ငန်းဆောင်ရွက်ရန် နှစ်စဥ်ထည့်ဝင်မည့် ရံပုံငွေအား ညှိနှိုင်းသတ်မှတ်၍ ကန်ထရိုက်တာမှ ထည့်ဝင်သွားရမည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး လုပ်ငန်းစဥ်၏ အစိတ်အပိုင်းဖြစ်သောလုပ်ကွက်မြေနေရာပြန်လည်ထူထောင်ခြင်း၊ သတ္တုတွင်းပြန်လည်အပ်နှံခြင်းနှင့် သတ္တုတွင်းပိတ်သိမ်းခြင်းလုပ်ငန်းစဥ်များ အစရှိသည်တို့ဆောင်ရွက်ရန်အတွက်သာ အဆိုပါရံပုံငွေကို သုံးစွဲသွားရန်ဖြစ်ပါသည်။

**လူမှုပတ်ဝန်းကျင်ထိခိုက်မှုလေ့လာဆန်းစစ်ချက်(SIA)နှင့် လူမှုပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းစီမံချက်**

၁၁-၆။ ကန်ထရိုက်တာသည်စီမံကိန်း၏ စီးပွားဖြစ်ထုတ်လုပ်သည့်ကာလတစ်လျှောက်၌ ဒေသခံများနှင့် လူမှုပတ်ဝန်းကျင်ဖွံ့ဖြိုးတိုးတက်မှုများကို တာဝန်ယူရမည်ဖြစ်ပြီး၊ လူမှုပတ်ဝန်းကျင် ထိခိုက်မှုဆိုင်ရာလေ့လာဆန်းစစ်ချက်(SIA)ကိုလေ့လာ၍ လုပ်ငန်းစီမံချက်ကို ရေးဆွဲထားရှိရမည်။ ဒေသခံများနှင့် လူမှုပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက်များ၏ လုပ်ငန်းစဥ်များ၌ ထူထောင်မှု၊ တည်ဆောက်မှု၊ လုပ်ငန်းလည်ပတ်မှု၊ ပြုပြင်ထိန်းသိမ်းမှုနှင့် ပြန်လည်အပ်နှံမှု၊ ရပ်စဲမှုလုပ်ငန်းစဥ်များ ရေးဆွဲဖော်ပြရမည်ဖြစ်ပြီး၊ အဆိုပါလုပ်ငန်းအစီအစဥ်များ၏ ခန့်မှန်းကုန်ကျစရိတ်များ၊ ဝန်ထမ်းများခန့်ထားပေးခြင်း၊ သင်တန်းပေးလေ့ကျင့်ခြင်းနှင့် ထိခိုက်သက်ရောက်မှုများကို လျှော့နည်းစေရေးအတွက် မရှိမဖြစ်လိုအပ်သော အထောက်အကူပြုသည့် ဝန်ဆောင်မှုလုပ်ငန်းများပါဝင်ရမည်။

Shwe Moe Yan Company Limited

SECOND ORIGINAL

၃၁-၇။ ဒေသခံလူ့အဖွဲ့အစည်းနှင့် လူမှုဖွံ့ဖြိုးတိုးတက်ရေးစီမံချက်များတွင် အောက်ဖော်ပြပါလုပ်ငန်းများ အကျုံးဝင်ပါရှိမည်ဖြစ်သည် -

(က) ပညာရေး၊ လေ့ကျင့်သင်ကြားရေးနှင့် အလုပ်ခန့်ထားရေးအစီအစဉ်

(ခ) ရွှေ့ပြောင်းနေရာချထားရန် လိုအပ်လျှင် ပြောင်းရွှေ့နေရာချထားမှု၊ စီမံခန့်ခွဲမှုလုပ်ငန်းစဉ်နှင့် အကောင်အထည်ဖော်မည့်အစီအစဉ်

(ဂ) ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်

(ဃ) လျှပ်စစ်မီးရရှိရေးအစီအစဉ်

(င) မြေယာရှုခင်းထိန်းသိမ်းရေးအစီအစဉ်

၃၁-၈။ ကန်ထရိုက်တာသည် စီးပွားရေးအဖွဲ့အစည်း၏ လူမှုရေးတာဝန်ယူမှု (CSR)လုပ်ငန်းစဉ်များ အကောင်အထည်ဖော် ဆောင်ရွက်ရန် ဒေသခံလူ့အဖွဲ့အစည်းနှင့် လူမှုပတ်ဝန်းကျင်ဖွံ့ဖြိုးတိုးတက်ရေးအစီအစဉ်အတွက် ငွေကြေးနှင့်ထောက်ပံ့ခြင်း၊ တည်ဆောက်ရေးဆိုင်ရာ အင်ဂျင်နီယာလုပ်ငန်းများ အခမဲ့ဆောင်ရွက်ပေးခြင်းနှင့် စီမံကိန်းမှရရှိသောအသားတင်အမြတ်၏ သတ်မှတ်ရာခိုင်နှုန်းအား CSR လုပ်ငန်းစဉ်လုပ်ဆောင်၍ ထည့်ဝင်သွားရန် သဘောတူညီကြပါသည်။

၁၉။ မူလစာချုပ် အပိုင်း(၃၁)၊ အစစ်အမှန်ဖြစ်ခြင်း အပိုင်းအား အပိုင်း(၃၂)အဖြစ် သတ်မှတ်ရမည်။

၂၀။ မူလစာချုပ်တွင် အပိုင်း(၃၃)၊ အထွေထွေဟူသော ခေါင်းစဉ်ဖြင့် အောက်ပါစာပိုဒ်များအား ထပ်မံဖြည့်စွက်ရမည်-

## အပိုင်း ( ၃၃)

## အထွေထွေ

၃၃-၁။ ဤပြင်ဆင်ချက် သဘောတူစာချုပ်သည် (၁.၁၀.၂၀၁၂)ရက်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

၃၃-၂။ မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲမှုမရှိဘဲ ဆက်လက်အကျိုးသက်ရောက်မှုရှိစေရမည်။

၃၃-၃။ မူလစာချုပ်ပါစည်းကမ်းချက်များနှင့် ပြင်ဆင်ချက်သဘောတူစာချုပ်ပါ စည်းကမ်းချက်များ ကွဲလွဲမှုရှိလာပါက ပြင်ဆင်ချက်သဘောတူစာချုပ်ပါစည်းကမ်းချက်များက လွှမ်းမိုးရမည်။

၃၃-၄။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို မူလစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် မှတ်ယူရမည်။

Shwe Moe Yan Company Limited *

ဤပြင်ဆင်ချက် သဘောတူစာချုပ်အား စာချုပ်၏အစဦးပိုင်းတွင် ဖော်ပြထားသော ၂၆ ရက်၊ နိုဝင်ဘာ လ၊ ၂၀၁၃ ခုနှစ် တို့တွင် အောက်ပါအတိုင်း နှစ်ဦးနှစ်ဖက်သဘောတူလက်မှတ်ရေးထိုးကြပါသည် -

| | |
|---|---|
| သတလ (၂ )(ကိုယ်စား) | ကန်ထရိုက်တာ(ကိုယ်စား) |
| 26/11/2013. | 26/11/13. |
| သံဒိုင် | ကျော်အောင် |
| ခေတ္တဦးဆောင်ညွှန်ကြားရေးမှူး | ဥက္ကဋ္ဌ |
| အမှတ်(၂)သတ္တုတွင်းလုပ်ငန်း | ရွှေမိုးယံကုမ္ပဏီလီမိတက် |
| သတ္တုတွင်းဝန်ကြီးဌာန | အမှတ်(၁၃၅-ဘီ)၊တက္ကသိုလ်ရိပ်သာလမ်း၊ |
| နေပြည်တော် | ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |

Shwe Moe Yan Company Limited.

## အသိသက်သေများ

| (၁) | | (၂) | |
|---|---|---|---|
| ၁။ အမည် | - ဦးမောင်မောင်အောင် | ၁။ အမည် | - ဦးလဖိုင်ခွန်ဆာ (ကိုယ်စား) |
| ၂။ ရာထူး | - ညွှန်ကြားရေးမှူး | ၂။ ရာထူး | - ဒု-ဥက္ကဋ္ဌ |
| ၃။ မှတ်ပုံတင်အမှတ် | - ၉/မမန(နိုင်) ၀၁၀၂၉၈ | ၃။ မှတ်ပုံတင်အမှတ် | - ၁/မကန(နိုင်) ၀၁၁၂၃၈ |
| ၄။ ဌာန / နေရပ် | - အမှတ်(၂)သတ္တုတွင်းလုပ်ငန်း | ၄။ ကုမ္ပဏီ | - ရွှေမိုးယံကုမ္ပဏီ |

| (၃) | | (၂) | |
|---|---|---|---|
| ၁။ အမည် | - ဦးဖုန်းမြင့် | ၁။ အမည် | - ဦးကျော်ဝင်းလွင် |
| ၂။ ရာထူး | - ဒု-ညွှန်ကြားရေးမှူး | ၂။ ရာထူး | - ဒါရိုက်တာ |
| ၃။ မှတ်ပုံတင်အမှတ် | - ၁၃/ဂသန (နိုင်) ၀၀၆၀၀၉ | ၃။ မှတ်ပုံတင်အမှတ် | - ၉/မနမ(နိုင်) ၁၀၂၁၇၁ |
| ၄။ ဌာန / နေရပ် | - အမှတ်(၂)သတ္တုတွင်းလုပ်ငန်း | ၄။ ကုမ္ပဏီ | - ရွှေမိုးယံကုမ္ပဏီ |

Shwe Moe Yan Company Limited.

ပူးတွဲဇယား(၁)

**ရွှေမိုးယံကုမ္ပဏီ(လုပ်ကွက်-B)**
**ဒုတိယထုထောင်မှုကာလအတွက်ပေးသွင်းရမည့်ရွှေစင်**

ခွင့်ပြုသက်တမ်း ၁၆.၉.၂၀၁၁ မှ ၁၅.၉.၂၀၁၉ ထိ

(၈)နှစ်အတွက်ပေးသွင်းရမည့်ရွှေစင် ၅.၁၁၇ မက်ထရစ်တန်

ရေတွက်ပုံ-ပိဿာ

| စဉ် | လအမည် | ၂၀၁၁-၂၀၁၂ | ၂၀၁၂-၂၀၁၃ | ၂၀၁၃-၂၀၁၄ | ၂၀၁၄-၂၀၁၅ | ၂၀၁၅-၂၀၁၆ | ၂၀၁၆-၂၀၁၇ | ၂၀၁၇-၂၀၁၈ | ၂၀၁၈-၂၀၁၉ | ၂၀၁၉-၂၀၂၀ | စုစုပေါင်း |
|---|---|---|---|---|---|---|---|---|---|---|---|
| ၁ | ဧပြီ | | | | ၂၀.၀၀၀၀ | | | | | | ၂၀.၀၀၀၀ |
| ၂ | မေ | | | | ၂၀.၀၀၀၀ | | | | | | ၂၀.၀၀၀၀ |
| ၃ | ဇွန် | | | | ၂၀.၀၀၀၀ | | | | | | ၂၀.၀၀၀၀ |
| ၄ | ဇူလိုင် | | ၇၁.၀၀၀၀ | | ၂၀.၀၀၀၀ | | | | | | ၂၀.၀၀၀၀ |
| ၅ | ဩဂုတ် | | ၇၁.၀၀၀၀ | | ၂၀.၀၀၀၀ | | | | | | ၂၀.၀၀၀၀ |
| ၆ | စက်တင်ဘာ | | ၇၁.၀၀၀၀ | | ၂၀.၀၀၀၀ | | | | | | ၂၀.၀၀၀၀ |
| ၇ | အောက်တိုဘာ | | | | ၂၀.၀၀၀၀ | | | | | | ၂၀.၀၀၀၀ |
| ၈ | နိုဝင်ဘာ | | | | ၂၀.၀၀၀၀ | | | | | | ၂၀.၀၀၀၀ |
| ၉ | ဒီဇင်ဘာ | | | ၅.၀၀၀၀ | ၂၀.၉၅၆၈ | | | | | | ၂၅.၉၅၆၈ |
| ၁၀ | ဇန်နဝါရီ | | | ၅.၀၀၀၀ | | | | | | | ၅.၀၀၀၀ |
| ၁၁ | ဖေဖော်ဝါရီ | | | ၅.၀၀၀၀ | | | | | | | ၅.၀၀၀၀ |
| ၁၂ | မတ် | | | ၅.၀၀၀၀ | | | | | | | ၅.၀၀၀၀ |
| | စုစုပေါင်း | | | ၂၀.၀၀၀၀ | ၁၈၈.၉၅၆၈ | | | | | | ၂၀၈.၉၅၆၈ |

ရှင်းလင်းချက်။ ပထမထုတ်လုပ်မှုကာလတွင် ပေးသွင်းရမည့်ရွှေစင်(၂၁၃)ပိဿာအနက် ရွှေစင်(၄.၀၄၃၀)ပိဿာသာပေးသွင်းခဲ့သဖြင့် ဆက်လက်ပေးသွင်းရန် ရွှေစင်(၂၀၈.၉၅၆၈)ပိဿာ ကျန်ရှိနေခဲ့ပါသည်။ ၎င်းကျန်ရှိနေသည့်ရွှေစင်(၂၀၈.၉၅၆၈)ပိဿာအား ဒုတိယထုထောင်မှုကာလ အတွင်းပေးသွင်းရမည်။

| | | | |
|---|---|---|---|
| ပထမထုထောင်မှုကာလ | (၁၆.၉.၂၀၁၁)ရက်နေ့မှ(၃၀.၆.၂၀၁၂)ရက်နေ့ထိ | ၁ မက်ထရစ်တန် = | ၆၀၂.၃၉၅၁ ပိဿာ |
| ပထမထုတ်လုပ်မှုကာလ | (၁.၇.၂၀၁၂)ရက်နေ့မှ(၃၀.၉.၂၀၁၂)ရက်နေ့ထိ | ၁ ကီလိုဂရမ် = | ၀.၆၀၂၃၉ ပိဿာ |
| ဒုတိယထုထောင်မှုကာလ | (၁.၁၀.၂၀၁၂)ရက်နေ့မှ(၁၅.၁၂.၂၀၁၄)ရက်နေ့ထိ | ၅.၁၁၇ မက်ထရစ်တန် = | ၃၁၃၃.၆၂၅၇ ပိဿာ |

## ရွှေမိုးယံတုမှုကီ(လုပ်ကွက်-B)
## ဒုတိယထုတ်လုပ်မှုကာလအတွက်ပေးသွင်းရမည့်ရွှေစင်

ခွင့်ပြုသက်တမ်း ၁၆.၉.၂၀၁၁ မှ ၁၅.၉.၂၀၁၉ ထိ

(၈)နှစ်အတွက်ပေးသွင်းရမည့်ရွှေစင် ၅.၁၁၇ မက်ထရစ်တန်

ရေတွက်ပုံ-ပိဿာ

| စဉ် | လအမည် | ၂၀၁၁-၂၀၁၂ | ၂၀၁၂-၂၀၁၃ | ၂၀၁၃-၂၀၁၄ | ၂၀၁၄-၂၀၁၅ | ၂၀၁၅-၂၀၁၆ | ၂၀၁၆-၂၀၁၇ | ၂၀၁၇-၂၀၁၈ | ၂၀၁၈-၂၀၁၉ | ၂၀၁၉-၂၀၂၀ | စုစုပေါင်း |
|---|---|---|---|---|---|---|---|---|---|---|---|
| ၁ | ဧပြီ | | | | | ၂၀.၀၀၀၀ | ၃၆.၀၀၀၀ | ၆၂.၀၀၀၀ | ၆၃.၀၀၀၀ | ၈၀.၀၀၀၀ | **၂၆၁.၀၀၀၀** |
| ၂ | မေ | | | | | ၂၀.၀၀၀၀ | ၃၆.၀၀၀၀ | ၆၂.၀၀၀၀ | ၆၃.၀၀၀၀ | ၈၀.၀၀၀၀ | **၂၆၁.၀၀၀၀** |
| ၃ | ဇွန် | | | | | ၂၀.၀၀၀၀ | ၃၆.၀၀၀၀ | ၆၃.၀၀၀၀ | ၆၃.၀၀၀၀ | ၈၀.၀၀၀၀ | **၂၆၂.၀၀၀၀** |
| ၄ | ဇူလိုင် | | | | | ၂၆.၀၀၀၀ | ၃၆.၀၀၀၀ | ၆၃.၀၀၀၀ | ၆၃.၀၀၀၀ | ၈၀.၀၀၀၀ | **၂၆၈.၀၀၀၀** |
| ၅ | ဩဂုတ် | | | | | ၂၆.၀၀၀၀ | ၃၆.၀၀၀၀ | ၆၃.၀၀၀၀ | ၈၀.၀၀၀၀ | ၈၀.၆၂၅၉ | **၂၈၅.၆၂၅၉** |
| ၆ | စက်တင်ဘာ | | | | | ၂၆.၀၀၀၀ | ၃၆.၀၀၀၀ | ၆၃.၀၀၀၀ | ၈၀.၀၀၀၀ | | **၂၀၅.၀၀၀၀** |
| ၇ | အောက်တိုဘာ | | | | | ၂၆.၀၀၀၀ | ၃၆.၀၀၀၀ | ၆၃.၀၀၀၀ | ၈၀.၀၀၀၀ | | **၂၀၅.၀၀၀၀** |
| ၈ | နိုဝင်ဘာ | | | | | ၂၆.၀၀၀၀ | ၃၆.၀၀၀၀ | ၆၃.၀၀၀၀ | ၈၀.၀၀၀၀ | | **၂၀၅.၀၀၀၀** |
| ၉ | ဒီဇင်ဘာ | | | | | ၂၆.၀၀၀၀ | ၃၆.၀၀၀၀ | ၆၃.၀၀၀၀ | ၈၀.၀၀၀၀ | | **၂၀၅.၀၀၀၀** |
| ၁၀ | ဇန်နဝါရီ | | | | ၂၀.၀၀၀၀ | ၂၆.၀၀၀၀ | ၆၂.၀၀၀၀ | ၆၃.၀၀၀၀ | ၈၀.၀၀၀၀ | | **၂၅၁.၀၀၀၀** |
| ၁၁ | ဖေဖော်ဝါရီ | | | | ၂၀.၀၀၀၀ | ၂၆.၀၀၀၀ | ၆၂.၀၀၀၀ | ၆၃.၀၀၀၀ | ၈၀.၀၀၀၀ | | **၂၅၁.၀၀၀၀** |
| ၁၂ | မတ် | | | | ၂၀.၀၀၀၀ | ၃၆.၀၀၀၀ | ၆၂.၀၀၀၀ | ၆၃.၀၀၀၀ | ၈၀.၀၀၀၀ | | **၂၆၁.၀၀၀၀** |
| | **စုစုပေါင်း** | | | | **၆၀.၀၀၀၀** | **၃၀၄.၀၀၀၀** | **၅၁၀.၀၀၀၀** | **၇၅၄.၀၀၀၀** | **၈၉၂.၀၀၀၀** | **၄၀၀.၆၂၅၉** | **၂၉၂၀.၆၂၅၉** |

| | | | | |
|---|---|---|---|---|
| ပထမထူထောင်မှုကာလ | (၁၆.၉.၂၀၁၁)ရက်နေ့မှ(၃၀.၆.၂၀၁၂)ရက်နေ့ထိ | ၁ မက်ထရစ်တန် | = | ၆၁၂.၃၉၅၁ ပိဿာ |
| ပထမထုတ်လုပ်မှုကာလ | (၁.၇.၂၀၁၂)ရက်နေ့မှ(၃၀.၉.၂၀၁၂)ရက်နေ့ထိ | ၁ ကီလိုဂရမ် | = | ၀.၆၁၂၃၉ ပိဿာ |
| ဒုတိယထူထောင်မှုကာလ | (၁.၁၀.၂၀၁၂)ရက်နေ့မှ(၁၅.၁၂.၂၀၁၄)ရက်နေ့ထိ | ၅.၁၁၇ မက်ထရစ်တန် | = | ၃၁၃၃.၆၂၅၇ ပိဿာ |
| ဒုတိယထုတ်လုပ်မှုကာလ | (၁၆.၁၂.၂၀၁၄)ရက်နေ့မှ(၁၅.၉.၂၀၁၉)ရက်နေ့ထိ | | | |

SECOND ORIGINAL

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

နှင့်

ရွှေမိုးယံကုမ္ပဏီလီမိတက်အုပ်စု

တို့၏

မန္တလေးတိုင်းဒေသကြီး၊ ရမည်းသင်းမြို့နယ်၊ ဝါးမြှုတောင်ဒေသ

ရွှေလုပ်ကွက်

အား

ရွှေစင်သတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်လုပ်ငန်း

# သဘောတူစာချုပ်

SECOND ORIGINAL

# မာတိကာ



Shwe Moe Yan Company Limited

SECOND ORIGINAL

## ရွှေသတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်လုပ်ငန်း

## သဘောတူစာချုပ်

ဤသဘောတူစာချုပ်ကို ၂၀၁၁ ခုနှစ်၊ လ၊ ( ) ရက်နေ့တွင် ဦးတင်မောင်ဆွေ ခေတ္တ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အမှတ်(၂)သတ္တုတွင်းလုပ်ငန်း သတ္တုတွင်းဝန်ကြီးဌာန (နောင်တွင် "သတလ(၂)" ဟု ခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)ကတစ်ဖက်နှင့် ဦးကျော်အောင်၊ နိုင်ငံသားစိစစ်ရေးအမှတ် ၉/မနမ(နိုင်)၁၀၂၀၇၇၊ ဥက္ကဋ္ဌ ကိုယ်စားပြုသော ကုမ္ပဏီ(၁၁)ခု ပူးပေါင်းပါဝင်သည့် ရွှေမိုးယံကုမ္ပဏီလီမိတက်အုပ်စု၊ အမှတ်(၂၆/၃)၊ မြေညီထပ်၊ နဝဒေးလမ်း ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့၊ (နောင်တွင် "ကန်ထရိုက်တာ" ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များ ဥပဒေအရလွှဲအပ်ခြင်း ခံရသူများပါဝင်သည်)က တခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ နှစ်ဖက်သဘောတူ ချုပ်ဆိုကြပါသည်။

### အပိုင်း ( ၁ )

### ရည်ရွယ်ချက်

၁။ အောက်ပါအတိုင်း ရည်ရွယ်ချက် ထားရှိပါသည် -

(က) နှစ်ဦးနှစ်ဖက်ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားမှုစနစ်ကိုအခြေခံ၍ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရမှ လုပ်ပိုင်ခွင့်ချမှတ်ပေးသည့် မန္တလေးတိုင်းဒေသကြီး ရမည်းသင်းမြို့နယ်၊ မိုးထိမိုးမိဒေသ၊ ဝါးမြူတောင်ရွှေလုပ်ကွက် လုပ်ကွက်(၆)မှ ရွှေသတ္တုရိုင်းများ တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းအား သတလ(၂)နှင့် ကန်ထရိုက်တာတို့ ပူးပေါင်းဆောင်ရွက်ရန်၊

(ခ) ရွှေသတ္တုရိုင်း တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်သက်ဆိုင်သော စီမံခန့်ခွဲခြင်း၊ ကျွမ်းကျင်မှုဆိုင်ရာ ကိစ္စရပ်များ ဆောင်ရွက်ခြင်းတို့အတွက် ငွေကြေးကုန်ကျစရိတ်များကိုကျခံရန် ကန်ထရိုက်တာက တာဝန်ယူစေပြီး အပိုဒ်(၄)တွင်ဖော်ပြထားသည့်စာချုပ်အရ လုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်တွင် တူးဖော် ထုတ်လုပ် ခွင့်နှင့်တည်ဆဲဥပဒေလုပ်ထုံးများနှင့်အညီ ပြည်တွင်း၌ရောင်းချခွင့်ရရှိစေရန် ကိစ္စရပ်များကို သတလ(၂) မှ တာဝန်ယူလျက် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ဆောင်ရွက်ကြရန်၊

### အပိုင်း ( ၂ )

### ကိုယ်စားပြုခြင်း နှင့် အာမခံခြင်း

၂။ ဤသဘောတူစာချုပ်ကိုချုပ်ဆိုကြသောစာချုပ်ဝင်တို့သည် ဤသဘောတူစာချုပ်ချုပ်ဆိုရန်အတွက် တည်ဆဲဥပဒေများအရ လုပ်ပိုင်ခွင့်၊ အခွင့်အာဏာနှင့်စီးပွားရေးအရ နိုင်မာတောင့်တင်းခြင်းရှိကြောင်းကို အသီးသီး ကိုယ်စားပြု အာမခံကြပါသည်။

### အပိုင်း ( ၃ )

### အဓိပ္ပာယ်ဖွင့်ဆိုချက်

၃။ ဤသဘောတူ စာချုပ်တွင် အသုံးပြုမည့် စကားရပ်များကို အောက်ပါအတိုင်း အဓိပ္ပာယ် ကောက်ယူရမည် -

(က) "ရွှေသတ္တုရိုင်း" ဆိုသည်မှာ - စာချုပ်အရလုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်အတွင်းတွင်းထွက် အတိုင်းထုတ်ယူရရှိသောရွှေသတ္တုရိုင်းကိုဆိုလိုသည်။

(ခ) "ရွှေသတ္တု" ဆိုသည်မှာ - ရွှေရည် (၁၆) ပဲရည် (သို့) ၉၉.၉၉ ရာနှုန်း အဆင့်ရှိ ရွှေစင် သတ္တုကို ဆိုလိုသည်။

(ဂ) "ဆက်စပ်သတ္တု Associated Minerals" ဆိုသည်မှာ - စာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်အတွင်းရှိ သတ္တုရိုင်းနှင့် အတူတူပင်ဖြစ်ပေါ်နေ၍အရ တွဲဖက်ပါဝင်လျက် ရှိသော တွင်းထွက်သတ္တုရိုင်းများကို ဆိုလိုသည်။

(ဃ) "ဘဏ္ဍာရေးနှစ်" ဆိုသည်မှာ - နှစ်စဉ်ပြက္ခဒိန်နှစ်တစ်နှစ်၏ ဧပြီလ(၁)ရက်နေ့မှအစပြု၍ နောင်လာမည့်နှစ်၏ မတ်လ(၃၁)ရက်နေ့အထိ (၁၂)လ ကာလကို ဆိုလိုသည်။

(င) "ထရိုင်အောင်စ" ဆိုသည်မှာ - ၁.၉၀၄၇ ကျပ်သား(သို့မဟုတ်) ၃၁.၁၀၃ ဂရမ် (သို့မဟုတ်) ၀.၀၃၁၁ ကီလိုဂရမ် (သို့မဟုတ်) ၀.၀၀၀၀၃၁ မက်ထရစ်တန် (သို့မဟုတ်) ၀.၀၆၈ ပေါင်ကို ဆိုသည်။

(စ) "ဝန်ကြီးဌာန" ဆိုသည်မှာ - သတ္တုတွင်းဝန်ကြီးဌာန ကိုဆိုလိုသည်။

(ဆ) "တန်ချိန်" ဆိုသည်မှာ - ကီလိုဂရမ်(၁၀၀၀)ရှိသောတစ်မက်ထရစ်တန်ကိုဆိုလိုသည်။

## အပိုင်း (၄)

## လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်

၄-၁။ ဤသဘောတူစာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်သည် မန္တလေးတိုင်းဒေသကြီး၊ ရမည်းသင်းမြို့နယ်တွင်တည်ရှိပြီး၊ ဤစာချုပ်နှင့် ပူးတွဲပါရှိသည့် နောက်ဆက်တွဲ(က)(ခ)တွင် ဖော်ပြထားသည့် မြေပုံညွှန်းနှင့်တကွ ဖော်ပြထားသည့် ဧရိယာ (၈၄၈၄.၅၉)ဧက (၃၄.၃၄ စတုရန်းကီလိုမီတာ၊ ၁၃.၂၅ စတုရန်းမိုင်)ရှိ နယ်နိမိတ်အတိုင်းဖြစ်သည်။

၄-၂။ အကယ်၍အထက်အပိုဒ် ၄-၁ တွင်ဖော်ပြထားသောလုပ်ကွက်ကို နိုင်ငံတော်အစိုးရမှ စီမံကိန်းတစ်ခုခုအတွက် အသုံးပြုရန်လိုအပ်ခဲ့လျှင် ကန်ထရိုက်တာဖြစ်သူက မိမိလက်ဝယ်ရယူထားသောလုပ်ကွက်ကို အစိုးရသို့ ပြန်လည်အပ်နှံရမည်ဖြစ်ပြီး ကန်ထရိုက်တာနစ်နာမှုမရှိစေရန် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။

## အပိုင်း (၅)

## လုပ်ငန်းအစီအစဉ်

၅-၁။ ကန်ထရိုက်တာသည် သတ္တုရိုင်းတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် သတ္တုတွင်းထူထောင်မှုနှင့် လုပ်ငန်းအစီအစဉ်များရေးဆွဲ၍ ဤစာချုပ်လက်မှတ်ရေးထိုးပြီး(၁)လအတွင်း သတလ(၂)နှင့် သတ္တုတွင်းဦးစီးဌာနသို့ တင်ပြရမည်။

၅-၂။ လုပ်ငန်းအစီအစဉ်တွင် ရွှေသတ္တုတူးဖော်ခြင်း၊ သန့်စင်ခြင်းနှင့်ချက်စင်ခြင်းနည်းဥပဒေများကို ထည့်သွင်းဖော်ပြရမည်။ ထိုသို့ဆောင်ရွက်ရာတွင် နိုင်ငံတော်၏ခွင့်ပြုချက်ရရှိမှသာ ဆိုင်ယာနိုက်နည်းစဉ်ကို အသုံးပြုရန်နှင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရေး လိုက်နာဆောင်ရွက်ရမည်။ ကန်ထရိုက်တာသည် လုပ်ငန်းအစီအစဉ် တင်ပြပြီး ခွင့်ပြုမိန့်ရသည့်နှင့် လုပ်ငန်းများ လျင်မြန်စွာဖြစ်မြောက်စေရေးအတွက် အမြန်ဆုံးအကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ဥပမာ - ကြိတ်ခွဲစက်ရုံ သန့်စင်စက်ရုံ အလုပ်သမားတန်းလျားများ ၎င်းတို့၏ မိခင်ကလေးများနှင့် ပတ်ဝန်းကျင်ကျေးရွာလူထု ကလေးများအတွက် စာသင်ကျောင်း ဆေးပေးခန်းများ ဆောက်လုပ်ပေးသွားရမည့် စသည်ဖြင့် လုပ်ငန်းအသားပါအတိုင်း အမြန်ဆုံးအကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၅-၃။ သတ္တုတွင်းထူထောင်မှုလုပ်ငန်းကို ဤစာချုပ်လက်မှတ်ရေးထိုးပြီးသည့်နေ့မှ ခွင့်ပြုမိန့်စည်းကမ်းချက်ပါ သတ်မှတ်ကာလအတွင်း အပြီးဆောင်ရွက်ရမည်။

၅-၄။ ကန်ထရိုက်တာမှတင်ပြသော လုပ်ငန်းအစီအစဉ်များကို နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ သဘောတူအတည်ပြုချက် ရရှိပြီးသည်နှင့် စတင်အကောင်အထည်ဖော်ရမည်။ ထိုသို့အတည်ပြုထားသော လုပ်ငန်းအစီအစဉ်များသည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။ ကန်ထရိုက်တာသည် လုံခြုံရေးအတွက်အလို့ငှါ မိမိရရှိထားသော ဧရိယာတစ်ခုလုံးအား လိုအပ်လျှင် ဝင်းခြံစည်းရိုး ကာရံရမည်။

၅-၅။ အတည်ပြုပြီးသော လုပ်ငန်းအစီအစဉ်အား ပြင်ဆင်ဖြည့်စွက်လိုပါက သတ္တုတွင်းဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ပြုလုပ်နိုင်သည်။

၅-၆။ ကန်ထရိုက်တာသည် အထက်ပါလုပ်ငန်းအဆင့်များကို အထိရောက်ဆုံးနှင့် နိုင်ငံတော်မှ လက်ခံကျင့်သုံးသည့် သတ္တုရှာဖွေတူးဖော်ထုတ်လုပ်မှု အဆင့်အတန်းနှင့် အင်ဂျင်နီယာနည်းပညာများနှင့်အညီ အထိရောက်ဆုံး ဆောင်ရွက်ရမည်။

## အပိုင်း ( ၆ )

## လုပ်ငန်းသုံး စက်ကိရိယာများ

၆-၁။ ကန်ထရိုက်တာသည် စာချုပ်အရ ဆောင်ရွက်မည့်တူးဖော်မှုလုပ်ငန်းအတွက် အသုံးပြုမည့်စက် စက်ပစ္စည်းများ ယာဉ်ယန္တရားများကို ပြည်ပမှတင်သွင်းရန်ရှိပါက သတ္တုတွင်းဝန်ကြီးဌာနသို့တင်ပြပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူခွင့်ပြုချက်ရရှိမှသာ တင်သွင်းခွင့်ရှိသည်။

၆-၂။ အပိုဒ် ၆-၁ အရ တင်သွင်းလာသည့် စက်ပစ္စည်းကိရိယာများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ပြန်လည်ရောင်းချခြင်း မပြုရ။

## အပိုင်း ( ၇ )

## ရင်းနှီးမြှုပ်နှံမှု ပမာဏ

၇။ ကန်ထရိုက်တာသည် စာချုပ်အပိုင်း(၅) အပိုဒ် ၅-၁ ပါ လုပ်ငန်းအစီအစဉ်များအတွက် အနည်းဆုံး ရင်းနှီးမြှုပ်နှံမှုငွေ အမေရိကန်ဒေါ်လာ(၂)သန်းနှင့် မြန်မာကျပ်ငွေသန်းပေါင်း(၁၅၀၀)ကို ရင်းနှီးမြှုပ်နှံရမည်။ ရင်းနှီးမြှုပ်နှံမှုငွေ တစ်ရပ်လုံးကို ကန်ထရိုက်တာမှ ကျခံရမည်။

## အပိုင်း ( ၈ )

## ထုထောင်မှုနှင့် တူးဖော်ထုတ်လုပ်ခြင်း

၈-၁။ ကန်ထရိုက်တာသည် စာချုပ်ပါလုပ်ငန်းများ အကောင်အထည်ဖော်ရာတွင် နိုင်ငံတကာမှ လက်ခံကျင့်သုံးသည့် သတ္တုတူးဖော်ထုတ်လုပ်မှုနည်းပညာ အဆင့်အတန်းများနှင့်အညီ အထိရောက်ဆုံး လုပ်ကိုင်ဆောင်ရွက်ရမည်။

၈-၂။ ကန်ထရိုက်တာသည် စာချုပ်အပိုင်း(၅) အပိုဒ် ၅-၁ ပါ လုပ်ငန်းအစီအစဉ်များတွင် ဖော်ပြထားသော ထုတ်လုပ်မှုလျာထားချက်ကို ပြည့်မီအောင် အကောင်အထည်ဖော်ရမည်။

## အပိုင်း ( ၉ )

## စာချုပ်သက်တမ်း

၉။ ဤသဘောတူစာချုပ်အရ ရွှေသတ္တုရိုင်းတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းများအတွက် ခွင့်ပြုသည့်ကာလမှာ သက်တမ်း (၅)နှစ်ဖြစ်သည်။ ပြင်ဆင်ချိန်ကာလမှာ ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သော နှစ်ဖက်ကြိုတင်သဘောတူစာချုပ်တွင် သဘောတူထားသည့် လုပ်ကွက်တင်ဒါအောင်မြင်သည့်နေ့ (၁၆-၉-၂၀၁၁)ရက်နေ့မှ (၃)လဖြစ်သည်။ လိုအပ်ချက်အရ ကုမ္ပဏီမှတောင်းဆိုလာပါက နောက်ထပ်ပြင်ဆင်ချိန်ကာလ (၃)လ တိုးမြှင့်ပေးရမည်။ ပြင်ဆင်ချိန် ကာလပြီးဆုံးသည့်နေ့မှစ၍ ထုတ်လုပ်မှုသက်တမ်းအား (၅)နှစ်အဖြစ် သတ်မှတ်ပေးမည်။ ဤစာချုပ်အား သက်တမ်းတိုးမြှင့်ရန်လိုအပ်ပါက သတ်မှတ်ထားသောခွင့်ပြုကာလ မကုန်ဆုံးမီ(၃)လအလိုတွင် ကန်ထရိုက်တာသည် မြန်မာ့သတ္တုတွင်းနည်းဥပဒေများနှင့်အညီ တစ်ကြိမ်လျှင်(၅)နှစ် ထက်မပိုသော သက်တမ်းတိုးမြှင့်ခြင်း (၄)ကြိမ်အထိ သတ်တမ်း(၂)မှတဆင့် သတ္တုတွင်းဝန်ကြီးဌာနသို့ လျှောက်ထားနိုင်သည်။ ယင်းသို့သက်တမ်းတိုးမြှင့်ခြင်းသည် သတ္တုတွင်းဝန်ကြီးဌာန၏ အတည်ပြုချက်ရမှသာလျှင် အတည်ဖြစ်သည်။

## အပိုင်း (၁၀)
## အထွေထွေတာဝန်များ

၁၀-၁။ ကန်ထရိုက်တာ၏ တာဝန်များ

ကန်ထရိုက်တာသည် အောက်ပါတို့ကို တာဝန်ယူရမည် -

(က) ခွဲဝေမှုအချိုးအား ဓာတ်သတ္တုခွန်(၅%)အပါအဝင် နိုင်ငံတော်အချိုး(၅၀%)နှင့် ကုမ္ပဏီအချိုး(၅၀%) သတ်မှတ်ပြီး နိုင်ငံတော်အချိုး(၅၀%)နှင့်ညီမျှသည့် ရွှေစင်(၉၉.၉၉)ရာနှုန်း ပါဝင်သော ရွှေစင်သတ္တု(၅.၁၁၇)မက်ထရစ်တန်အား သတ်မှတ်ခွင့်ပြုကာလ(၅)နှစ်အတွင်း အပြည့်အဝ ပေးသွင်းရမည်။

(ခ) နိုင်ငံတော်သို့ ပေးသွင်းရမည့် (၅)နှစ်စာ ရွှေစင်(၅.၁၁၇)မက်ထရစ်တန်အား ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၈)ရက်နေ့မတိုင်မီ အပြီးပေးသွင်းရမည်။ ပြင်ဆင်ချိန်ကာလ ပြီးဆုံးသည့်နေ့မှစ၍ ထုတ်လုပ်မှုသက်တမ်းကာလစတင်ချိန်တွင် ပေးသွင်းရမည့် လစဉ်သတ်မှတ်ရွှေစင် (၆၇)ပိဿာအား ၂၀၁၂ ခုနှစ်၊ ဧပြီလ (၇)ရက် နေ့မတိုင်မီ စတင်ပေးသွင်းရမည်။ လစဉ်ပေးသွင်းရမည့် ရွှေစင် (၆၇)ပိဿာအား လစဉ်သတ်မှတ်ရက် (၂၈)ရက်နေ့မတိုင်မီ ပေးသွင်းသွားရမည်ဖြစ်ပြီး ပေးသွင်းရန် ကျန်ရွှေစင် (၅၁.၆၃)ပိဿာအား ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ (၂၈)ရက်နေ့မတိုင်မီ အပြီးပေးသွင်းရမည်။ လစဉ် သတ်မှတ်ရွှေစင်အား မပေးသွင်းနိုင်ပါက ဘဏ်အာမခံငွေထဲမှ ယင်းရွှေစင် (၆၇)ပိဿာနှင့် ညီမျှသော ကမ္ဘာ့ရွှေဈေးနှုန်းနှင့် မြန်မာ့ရွှေဈေးနှုန်းအပေါ်မူတည်၍ သတ်မှတ်ထားသောနှုန်းဖြင့် တွက်ချက်ထားသည့်တန်ဖိုးကို ဘဏ်အာမခံငွေမှနုတ်ယူသွားရမည်။ ထိုသို့နုတ်ယူပြီးနောက် လျော့နည်းသွားသော ဘဏ်အာမခံငွေကို (၇)ရက်အတွင်း ကုမ္ပဏီမှ ပြန်လည်ဖြည့်တင်းပေးရမည်။

(ဂ) မည်သို့သောအကြောင်းကြောင့် ဖြစ်ပေါ်စေကာမူ နိုင်ငံတော်အား ပေးသွင်းရမည့် သတ်မှတ်အချိုးအား အပြည့်အဝ ပေးသွင်းရမည်။

(ဃ) သတ္တုတွင်းလုံခြုံမှုအား ကန်ထရိုက်တာမှ တာဝန်ယူရမည်။

(င) ရွှေစင်ထုတ်လုပ်မှုအတွက် လိုအပ်သော စက်ရုံ ယမ်း ယန္တရားများ ဓာတ်ဆေးများ ပညာရှင်များအား တင်သွင်းခေါ်ယူခွင့်ရရှိရေး ဝန်ကြီးဌာနသို့ တင်ပြဆောင်ရွက်ရမည်။

(စ) သတလ(၂)သို့တင်ပြသည့် လုပ်ငန်းအစီအစဉ်အရ ရွှေသတ္တုမိုင်းထုတ်လုပ်ရာတွင် ကုန်ကျစရိတ် သယ်ယူပို့ဆောင်မှုကုန်ကျစရိတ်နှင့် အခြားအထွေထွေ ကုန်ကျစရိတ်အဝဝ ကိုကျခံရမည်။

(ဆ) ဤစာချုပ်အရ တူးဖော်ခွင့်ပြုထားသည့်သတ္တုကိုသာ တူးဖော်ထုတ်လုပ်ရမည်။ သတ်မှတ် လုပ်ကွက်အတွင်း ခွင့်ပြုထားသည့်သတ္တုမဟုတ်သဲ့ အခြားသတ္တုများ ကျောက်မျက်ရတနာများ တွေ့ရှိပါက အဆိုပါတွေ့ရှိမှုကို သတလ(၂)နှင့် သတ္တုတွင်းဦးစီးဌာနသို့ အမြန် သတင်းပို့ရမည်။

(ဇ) တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းများကို ကောင်းမွန်မှန်ကန်သော သတ္တုတူးဖော်မှု အတွေ့အကြုံများကို အခြေခံ၍ သတ္တုသိုက်လေလွင့်ဆုံးရှုံးမှုမရှိစေသော အကောင်းဆုံးနည်းစနစ်များကို လိုက်နာဆောင်ရွက်ရန်နှင့် နောင်ဆက်လက်ဆောင်ရွက်ရမည့် ထုတ်လုပ်မှုလုပ်ငန်းများကို မထိခိုက်စေအောင် ဆောင်ရွက်ရမည်။

(ဈ) သတ်မှတ်ခွင့်ပြုထားသော လုပ်ကွက်အတွင်း၌သာ ရွှေသတ္တုမိုင်းတူးဖေါ် ထုတ်လုပ်ရမည်။

(ည) ရွှေသတ္တုမိုင်းတူးဖော်ထုတ်လုပ်မှု ဆောင်ရွက်ရာတွင် ကုန်ထုတ်လုပ်မှုစွမ်းအား အပြည့်အဝ ရရှိနိုင်ရေးအတွက် လုပ်ငန်းကျွမ်းကျင်သူများကို လုံလောက်စွာခန့်ထားရမည်။

(ဋ) လုပ်ငန်းအစီအစဉ်များကို ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရက ပြဋ္ဌာန်းထုတ်ပြန်ထားသော မြန်မာ့သတ္တုတွင်းဥပဒေနှင့် မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ အမိန့်ကြော်ငြာစာများ၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရမည်။

16/12/2011

(ဌ) ရွှေသတ္တုရိုင်းတူးဖော်ထုတ်လုပ်ခြင်း၊ သိုလှောင်ခြင်း၊သယ်ယူရောင်းချခြင်းတို့နှင့် ပတ်သက်သည့် လစဉ်အစီရင်ခံစာကို နှစ်ဘက်သဘောတူထားသည့်ပုံစံများဖြင့် ဖြည့်သွင်း၍ မိတ္တူ(၁)စောင်စီကို သတလ(၂)နှင့် သတ္တုတွင်းဦးစီးဌာနတို့သို့ လစဉ်လထိပ်ပထမ ရက်သတ္တပတ်(၁)ပတ် အတွင်း အချိန်မှန်မှန် ပေးပို့ရမည်၊

(ဍ) ကျွမ်းကျင်မှုဆိုင်ရာ သုံးသပ်ချက်များပါဝင်သော သုံးလပတ်အစီရင်ခံစာများကို ပေးပို့ရန် အချိန်ကျရောက်သည့်နေ့မှ ရက်သတ္တပတ် (၁)ပတ်အတွင်း တင်ပြရန်နှင့် နှစ်ချုပ်အစီရင်ခံစာများကိုလည်း ဘဏ္ဍာရေးနှစ်ကုန်ဆုံးသည့်နေ့မှ တစ်လအတွင်း အထက်အပိုဒ် ၁၀-၁(ဌ)ပါအတိုင်း အချိန်မှန်မှန် ပေးပို့ရမည်၊

(ဎ) လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ဧရိယာနယ်နိမိတ်အတွင်းရှိ သစ်ပင်များကိုသော်လည်းကောင်း အပြင်ရှိသစ်ပင်များကိုသော်လည်းကောင်း သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ ခုတ်လှဲခြင်းမပြုလုပ်ရ၊ သစ်ပင်များကိုခုတ်လှဲရန်လိုအပ်ပါက သစ်တောဦးစီးဌာန၏ ကြိုတင်ခွင့်ပြုချက် ရယူရန်နှင့် ခုတ်လှဲသောသစ်ပင်များကို အသုံးပြုပါက သစ်တောဦးစီးဌာနမှ သတ်မှတ်ထားသော ဈေးနှုန်းဖြင့် ပေးချေ ဝယ်ယူရမည်၊

(ဏ) ရွှေသတ္တုရိုင်း တူးဖော်ပြီးမြေဧရိယာတွင် သစ်တောစိုက်ခင်းများ ပြန်လည်တည်ထောင်ပေးခြင်း သို့မဟုတ် လျော်ကြေးပေးခြင်း ပြုရမည်၊

(တ) ရွှေသတ္တုရိုင်းတူးဖော်မည့် လုပ်ကွက်နယ်နိမိတ် သတ်မှတ်ခြင်းလုပ်ငန်းအတွက် တည်ဆဲဥပဒေ ညွှန်ကြားချက်များနှင့်အညီ လိုအပ်သည်များကို ဆောင်ရွက်ပေးရမည်၊

(ထ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် ရေထု၊ မြေထု၊ လေထု ညစ်ညမ်းမှုမဖြစ်စေရန် လိုအပ်သည်များကို ဆောင်ရွက်ပေးရမည်၊

(ဒ) ရွှေသတ္တုရိုင်းတူးဖော်ခြင်းမှထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများကြောင့် မြစ်ချောင်း၊ အင်းအိုင်များကိုပိတ်ဆို့ခြင်း၊ ရေစီးလမ်းပြောင်းလဲခြင်း၊ အများပြည်သူအသုံးပြုသောရေရရှိနိုင်မှုတို့ကို ထိခိုက်စေခြင်းများမရှိစေရ၊ ပျက်စီးမှုများဖြစ်ပေါ်ပါက လုပ်ကွက်များ ချက်ချင်းပိတ်သိမ်း အရေးယူခြင်းခံရမည်၊

(ဓ) တူးဖော်ထုတ်လုပ်သည့်လုပ်ငန်းကြောင့် ဒေသတွင်းတည်ရှိနေသော လယ်ယာမြေ၊ အိမ်၊ ခြံ တို့နှင့် ပတ်သက်၍ ထိခိုက်မှုရှိလျှင် သက်ဆိုင်ရာအာဏာပိုင်များမှ သတ်မှတ်ပေးထားသော တန်ဖိုးကို လျော်ကြေးအဖြစ် ပေးဆောင်ရမည်၊

(န) သတ္တုတွင်းဧရိယာအတွင်း လုံခြုံရေးအတွက် လိုအပ်သည့်နေရာများတွင် ခြံစည်းရိုး ကာရံထားရမည်၊

(ပ) သတ္တုတွင်းဧရိယာအတွင်းရှိ ကျေးရွာလူထု၊ သတ္တုတွင်းလုပ်သားများအတွက် ကျန်းမာရေး စောင့်ရှောက်ပေးမှုပေးရန် ဆေးပေးခန်း တည်ဆောက်ပေးခြင်းနှင့် မိုနိုကလေးများအတွက် စာသင်ကျောင်းများ တည်ဆောက်ပေးရမည်၊ လိုအပ်မည့် ကျန်းမာရေးဝန်ထမ်းနှင့် ဆရာ၊ ဆရာမများရရှိရေးအတွက် သတ္တုတွင်းဝန်ကြီးဌာနသို့ တင်ပြ၍ ညှိနှိုင်းဆောင်ရွက်ရမည်၊

(ဖ) ခွင့်ပြုမိန့်ပျောက်ဆုံးပါက သတလ(၂)နှင့် သတ္တုတွင်းဦးစီးဌာနသို့ (၁)လအတွင်း ခွင့်ပြုမိန့်အသစ်ထုတ်ပေးရန် အမြန်ပြန်လည်လျှောက်ထားရမည်၊ ထိုသို့လျှောက်ထားရာတွင် သက်ဆိုင်ရာမြို့နယ်အဆင့် ဒေသအာဏာပိုင်နှင့် မြို့နယ်အဆင့် မြန်မာနိုင်ငံရဲတပ်ဖွဲ့ ထောက်ခံချက်များဖြင့် ပြည့်စုံစွာ တင်ပြရမည်၊

(ဗ) ခွင့်ပြုမိန့်ပျောက်ဆုံးကြောင်း၊ ခိုင်လုံသည့်အထောက်အထားပြနိုင်ပါက ခွင့်ပြုမိန့်အသစ်အား သတ္တုတွင်းဝန်ကြီးဌာနသို့ သတလ(၂)မှ တင်ပြပြီး ဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်အတိုင်း ကုမ္ပဏီမှ သတ်မှတ်ဒဏ်ကြေးငွေ ပေးဆောင်စေပြီး ခွင့်ပြုမိန့်အသစ် ထပ်မံထုတ်ယူရမည်၊

(ဘ) စာချုပ်ပါ တာဝန်များကို လုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီများပူးတွဲ၍သော်လည်းကောင်း၊ ကုမ္ပဏီတစ်ခုချင်းသော်လည်းကောင်း တာဝန်ရှိစေရမည်၊

SECOND ORIGINAL

၁၀.၂။ သတလ(၂)၏တာဝန်များ

သတလ(၂)သည်အောက်ပါတို့ကို တာဝန်ယူရမည်-

(က) ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်နေ့တွင် လုပ်ပိုင်ခွင့် ခွင့်ပြုမိန့်ကို ထုတ်ပေးရမည်။ ရက်ပေါင်း(၃၀)အတွင်း လုပ်ကွက်ကိုလွှဲအပ်ပေးရမည်။

(ခ) ကန်ထရိုက်တာမှ တင်ပြလာသော လုပ်ငန်းအစီအစဉ်ကို ရက်ပေါင်း(၃၀)အတွင်း စစ်ဆေးအတည်ပြုပေးရမည်။

(ဂ) သတ္တုတူးဖော်ထုတ်လုပ်ရာတွင် ကန်ထရိုက်တာမှ ကျွမ်းကျင်မှုဆိုင်ရာ အကူအညီများ တောင်းခံလာပါက သင့်တင့်သော ကူညီမှုများ ဆောင်ရွက်ပေးရမည်။

(ဃ) သတ္တုတူးဖော်ရေးလုပ်ငန်းခွင်အတွင်း လိုအပ်ချက်များ တင်ပြလာပါက ကူညီဆောင်ရွက်ပေးရမည်။ သက်ဆိုင်သည့်လုပ်ငန်းဌာနများနှင့် ပေါင်းစပ်ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(င) သတလ(၂)သည် ရွှေသတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်လုပ်ငန်း လုပ်ငန်းတူတောင် ထုတ်လုပ်မှုအတွက် လိုအပ်သလိုလမ်းညွှန်ကြီးကြပ်မှု စစ်ဆေးမှုနှင့်အကြံပြုမှုများကို လုပ်ဆောင်ပေးရမည်။

(စ) ကန်ထရိုက်တာမှ အကူအညီတောင်းလာပါက လုပ်ငန်းသုံးယမ်းနှင့်အပေါင်းပါ ဆက်စပ်ပစ္စည်းများနှင့် အခြားပံ့ပိုးနိုင်သည်များကို အခကြေးငွေရယူပြီး ပံ့ပိုးနိုင်သည်။

(ဆ) လက်ရှိရရှိသည့်လုပ်ကွက်မှ ထုတ်လုပ်မည့်ရွှေသည် မျှော်မှန်းသလို စီးပွားဖြစ်ထုတ်လုပ်နိုင်မှု မရှိပါက မိုးထိမိုးမိဒေသ ယခင်ပုဒ်မ-၁၄၄ ထုတ်ပြန်ထားသောဧရိယာ၏မြောက်ဘက်ပိုင်း ကျန်ရှိသော ဆက်စပ်ဧရိယာ (၇.၉၆ စတုရန်းမိုင်)အား ယခုရရှိသည့် မိုင်းဧရိယာအတွင်းသို့ လိုအပ်လျှင် ထည့်သွင်း သတ်မှတ်ပေးရမည်။

(ဇ) ရရှိထားသည့်မူလလုပ်ကွက်သည် မျှော်မှန်းထားသည့်အတိုင်း ရွှေထွက်ရှိမှုမရှိသဖြင့် ထပ်မံတိုးချဲ့တောင်းခံခြင်းဖြစ်ပါ၍ မူလကတိကဝတ်ပါအတိုင်း ရွှေပမာဏသာလျှင် နိုင်ငံတော်သို့ပေးသွင်းခွင့်ပြုရမည်။

(ဈ) သတ်မှတ်လုပ်ကွက်အတွင်း ရွှေနှင့်ရွှေမထွက်သော်လည်း အခြားသတ္တုများ တွေ့ရှိခဲ့ပြီး ၎င်းသတ္တုများအား ကုမ္ပဏီမှလုပ်ကိုင်ခွင့်ရရန် ဝန်ကြီးဌာနသို့ တင်ပြလာပါက စိစစ်၍ လုပ်ထုံးလုပ်နည်းနှင့်အညီ လုပ်ကိုင်ခွင့်ပြုရမည်။

(ည) လက်ရှိလုပ်ကွက်သည် Adit များ အနည်းအကျဉ်းသာရှိပြီး စနစ်တကျ သတ္တုမိုင်းတန်ခိုန်ပါဝင်မှုနှုန်းအား တွက်ချက်ထားခြင်းမရှိ၍ ရှာဖွေစမ်းသပ်ခွင့် (၃)လအား ထုတ်လုပ်မှု မစတင်ခင်ခွင့်ပြုပေးရမည်။

(ဋ) ရှာဖွေစမ်းသပ်ခွင့် (၃)လပေးမည်ဖြစ်ပြီး လိုအပ်ပါက ထပ်တိုး(၃)လပေးရမည်။ ရှာဖွေစမ်းသပ်ခွင့် (၃)လ ပြည့်မြောက်ပြီးချိန် ထုတ်လုပ်မှုစတင်သည့်နေ့မှစ၍ ရွှေခွဲဝေပေးသွင်းမှုအား မူလစာချုပ်ပါအတိုင်း စတင်ဆောင်ရွက်ခွင့်ပြုရမည်။

(ဌ) ကုမ္ပဏီမှ ရှာဖွေစမ်းသပ်ကာလတွင်လည်းကောင်း ထုတ်လုပ်မှုကာလတွင်လည်းကောင်း လိုအပ်သော ယာဉ် ယန္တရား ဓာတ်ခွဲကရိယာ ဓာတ်ဆေး သန့်စင်စက်ရုံ စသည်ဖြင့် လိုအပ်သော ပစ္စည်းများ တင်သွင်းခွင့်ရရှိရေးအတွက် တင်ပြလာပါက စိစစ်၍ ကူညီဆောင်ရွက်ပေးရမည်။

(ဍ) အထက်ပါ ယန္တရား ပစ္စည်းစက်ရုံများအတွက် လိုအပ်သော ကျွမ်းကျင်ပညာရှင်များအား လုပ်ထုံးလုပ်နည်းများနှင့်အညီ နိုင်ငံခြားမှ ခေါ်ယူခွင့်ပြုရမည်။

## အပိုင်း ( ၁၁ )

## ခုတ်သတ္တုခွန်နှင့် ပုံသေမြေငှားရမ်းခ

၁၁-၁။ ဤသဘောတူစာချုပ် အပိုဒ် ၁၀-၁(က) အရ နိုင်ငံတော်အချိုး(၅၀%)တွင် ခုတ်သတ္တုခွန်(၅%)ပါဝင်သဖြင့် သ.တ.လ(၂)မှခုတ်သတ္တုခွန်(၅%) ကို နိုင်ငံတော်သို့ ပေးဆောင်ရမည်။

၁၁-၂။ ကန်ထရိုက်တာသည် ပုံသေမြေငှားရမ်းခ ( Dead Rent )ကို မြန်မာ့သတ္တုတွင်းဥပဒေ၊ မြန်မာ့သတ္တုတွင်း နည်းဥပဒေပါ ပြဋ္ဌာန်းချက်များအရ ထုတ်လုပ်မှုကာလတွင် တစ်နှစ်လျှင် တစ်ဧကရုန်းကိုလိုမ်တာအတွက် ကျပ်(၆၀,၀၀,၀၀၀/-)( ကျပ် သိန်းခြောက်ဆယ် တိတိ) နှုန်းထားအတိုင်း သတ္တုတွင်းဝန်ကြီးဌာန၊ သတ္တုတွင်းဦးစီးဌာနသို့ပေးဆောင်ရမည်။

## အပိုင်း ( ၁၂ )

## ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားခြင်း

၁၂။ ထုတ်လုပ်ရရှိသော ရွှေစင်သတ္တုများကို သတလ(၂)နှင့် ကန်ထရိုက်တာတို့သည် အောက်ပါအတိုင်း လစဉ် အချိုးကျ ခွဲဝေခံစားရမည် -

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ခုတ်သတ္တုခွန် | + | သတလ(၂) | = | စုစုပေါင်း | : | ကန်ထရိုက်တာ |
| ၅% | + | ၄၅% | = | ၅၀% | : | ၅၀% |

## အပိုင်း ( ၁၃ )

## ထုတ်ကုန်ပစ္စည်းတန်ဖိုး သတ်မှတ်ခြင်း

၁၃။ ထုတ်လုပ်သည့် ရွှေစင်သတ္တုနှင့်နှစ်ကုန်လက်ကျန် ရွှေစင်သတ္တုများအတွက် တန်ဖိုးသတ်မှတ်ရန်လိုအပ်ပါက ကမ္ဘာ့ရွှေဈေးနှုန်း(LME)နှင့် မြန်မာ့ရွှေဈေးနှုန်းအပေါ် မူတည်၍ သတ်မှတ်ရမည်။

## အပိုင်း ( ၁၄ )

## သိုလှောင်ခြင်း၊ လွှဲပြောင်းခြင်းနှင့် သယ်ယူရောင်းချခြင်း

၁၄-၁။ ကန်ထရိုက်တာသည် သန့်စင်ပြီးသော ရွှေစင်သတ္တုများကို သတ်မှတ်ထားသည့် လုံခြုံရေးစိတ်ချရသော နေရာ၊ သိုလှောင်ခန်း၊ အာမခံသေတ္တာတွင်သေချာစွာ ထည့်သွင်းထားရမည်။ ယင်းသို့ သိုလှောင်သိမ်းဆည်း ထားသော နေရာကို သော့ခလောက်နှစ်လုံးခတ်သည့် စနစ်အသုံးပြု၍ သတလ(၂)နှင့် ကန်ထရိုက်တို့က သော့တစ်ချောင်းစီ ထိန်းသိမ်းထားကြရမည်။ သိုလှောင်ခန်း၊ အာမခံသေတ္တာဖွင့်/ပိတ်ခြင်းကို နှစ်ဖက် အတူတကွ ဆောင်ရွက်ရမည်။

၁၄-၂။ သတလ(၂)မှ အချိုးကျရရှိမည့် ရွှေစင်သတ္တုများကို သတလ(၂)မှ သတ်မှတ်ထားသောနေရာတွင် ကန်ထရိုက်တာမှ လွှဲပြောင်းပေးရမည်။

၁၄-၃။ အပိုဒ် ၁၂ အရ ကန်ထရိုက်တာမှ အချိုးကျရရှိသောသတ္တုရိုင်းများအား သယ်ယူခြင်းကို သတ္တုတွင်းဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ လွတ်လပ်စွာဆောင်ရွက်နိုင်သည်။ ရွှေစင်သတ္တုများအား သတ္တုတွင်းဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပြည်တွင်း၌ ရောင်းချနိုင်သည်။

SECOND ORIGINAL

## အပိုင်း ( ၁၅ )

## အခွန်အကောက်များ

၁၅-၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရမှ သတ်မှတ်ပြဋ္ဌာန်းထားသော အခွန်အကောက်များကို တည်ဆဲဥပဒေ နည်းဥပဒေ အမိန့် ညွှန်ကြားချက်များနှင့်အညီ ကန်ထရိုက်တာမှ ပေးဆောင်ရမည်။

၁၅-၂။ သတလ(၂)သည် ကန်ထရိုက်တာမှ ပေးဆောင်ရန်ရှိသည့် ဝင်ငွေခွန်နှင့် အခြားအခွန်အကောက်များကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပါအတိုင်း သက်သာခွင့်ရရှိရေးကို ကူညီဆောင်ရွက်ပေးရမည်။

## အပိုင်း ( ၁၆ )

## အာမခံထားရှိခြင်း

၁၆။ ကန်ထရိုက်တာသည် မြန်မာ့အာမခံဥပဒေအရ လိုအပ်သော အာမခံများ ထားရှိရမည်။

## အပိုင်း ( ၁၇ )

## လုပ်ငန်းအတွက်အဆိုပြုတန်ဖိုး

၁၇။ ကန်ထရိုက်တာသည် မန္တလေးတိုင်းဒေသကြီး ရမည်းသင်းမြို့နယ် ဝါးမြို့တောင်ရွှေလုပ်ကွက် ရွှေဓာတ်ထုတ်လုပ်ကွက်အတွက် သတလ(၂)သို့ အဆိုပြု တန်ဖိုးငွေကျပ် (၁၅၀,၀၀၀,၀၀၀) (ကျပ် သန်းတစ်ရာ့ငါးဆယ်တိတိ)ကို လက်မှတ်ရေးထိုးသည့်နေ့မတိုင်မီ ပေးသွင်းရမည်။

## အပိုင်း ( ၁၈ )

## ငွေပေးချေခြင်း

၁၈။ ကန်ထရိုက်တာသည် စာချုပ်အရ သတလ(၂)သို့ ပေးရန်ရှိသောငွေများကို သတလ(၂)မှ သတ်မှတ်ပေးထားသော မြန်မာနိုင်ငံရှိဘဏ်တွင်ပေးသွင်းရမည်။ ကန်ထရိုက်တာသည် စာချုပ်အရ ပေးရန်ရှိသောငွေများကိုပေးချေရန် ကျရောက်သည့်နေ့မှ ရက်ပေါင်း(၃၀)အတွင်း ပေးချေရမည်။

## အပိုင်း ( ၁၉ )

## အနညာတစီရင် ဆုံးဖြတ်ခြင်း

၁၉။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်တစ်ဦးစီ ခန့်ထားသော နုလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ နုလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် နုလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ နုလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည်

အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များ အပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေအမှတ် ၄/၁၉၄၄)နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့် အညီဖြစ်စေရမည်။ အနုညာတစီရင် ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော် ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

## အပိုင်း ( ၂၀ )

## လုပ်ငန်းစစ်ဆေးခြင်း

၂၀-၁။ ရွှေသတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်လုပ်ငန်း၏ လုပ်ငန်းစဉ်များအောင်မြင်ရေးနှင့် စာချုပ်ပါလုပ်ငန်းရပ်များ အကောင်အထည်ဖော်နိုင်ရေးတို့အတွက် အထွေထွေမန်နေဂျာ (သို့မဟုတ်) အထွေထွေမန်နေဂျာမှ တာဝန်ပေးသူ ဦးဆောင်သောအဖွဲ့နှင့် သက်ဆိုင်ရာမြို့နယ်ရွှေကြီးကြပ်ရေးအဖွဲ့များ၏ အခါအားလျော်စွာ ကွင်းဆင်းစစ်ဆေးခြင်းနှင့် သက်ဆိုင်ရာလုပ်ငန်းရှင်နှင့် ဆွေးနွေးခြင်းတို့ကိုခံယူရမည်။

၂၀-၂။ ဖော်ပြပါလုပ်ငန်းစစ်ဆေးရေးအဖွဲ့နှင့်ကန်ထရိုက်တာတို့ နှစ်ဦးနှစ်ဖက်ဆွေးနွေးခြင်းကို အထွေထွေမန်နေဂျာရုံး(သို့မဟုတ်)ရွှေသတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်လုပ်ငန်းရှိရာ အခြားသင့်လျော်သည့်နေရာတွင်(၃)လတစ်ကြိမ် ဆွေးနွေးညှိနှိုင်းရမည်။ လိုအပ်ပါက အထွေထွေမန်နေဂျာမှ အချိန်မရွေး အစည်းအဝေး ခေါ်ယူနိုင်သည်။

၂၀-၃။ လုပ်ငန်းစစ်ဆေးရေးအဖွဲ့မှ ဆုံးဖြတ်ရန်ခက်ခဲသည့် (သို့မဟုတ်) မဆုံးဖြတ်နိုင်သည့် ကိစ္စရပ်များအား သတ္တုတွင်းဝန်ကြီးဌာနသို့ တင်ပြဆောင်ရွက်ရမည်။

၂၀-၄။ လုပ်ငန်းစစ်ဆေးရေးအဖွဲ့သည် သတ္တုတွင်းဝန်ကြီးဌာနမှ အခါအားလျော်စွာ ချမှတ်ထားသော ဆုံးဖြတ်ချက်နှင့်အမိန့်များကို အရေးယူလိုက်နာ ဆောင်ရွက်ရမည်။

## အပိုင်း ( ၂၁ )

## လုပ်ငန်းများကြီးကြပ်ဆောင်ရွက်ခြင်း

၂၁-၁။ ကန်ထရိုက်တာသည် လုပ်ငန်းကာလအတွင်း သတလ(၂)မှ ကိုယ်စားလှယ်နှစ်ဦးထားရှိရန် သဘောတူသည်။ ယင်းကိုယ်စားလှယ်များ နေထိုင်သွားလာရေး၊ စားသောက်ရေးနှင့် စီမံခန့်ခွဲရေးအတွက် နှစ်ဖက်ညှိနှိုင်းပြီး သတ်မှတ်ပေးထားသော လစဉ်ထောက်ပံ့ကြေးငွေများကို ကန်ထရိုက်တာမှ စီမံဆောင်ရွက်ပေးရမည်။

၂၁-၂။ သတလ(၂) ကိုယ်စားလှယ်များအား ဤစာချုပ်ပါလုပ်ငန်းများနှင့်စပ်လျဉ်း၍ သက်ဆိုင် သောရုံးလုပ်ငန်းများ ဆောင်ရွက်နိုင်စေရန် ကန်ထရိုက်တာမှပံ့ပိုးရမည်။

၂၁-၃။ သတလ(၂)နှင့် သတ္တုတွင်းဝန်ကြီးဌာနမှ တာဝန်ပေးအပ်ထားသော ပုဂ္ဂိုလ်များသည် လိုအပ်ပါက သင့်လျော်သည့်အချိန်တွင် စာချုပ်အရလုပ်ပိုင်ခွင့်ရှိသောနယ်မြေအတွင်း လုပ်ငန်းများဝင်ရောက် စစ်ဆေးခွင့်ရှိသည်။ ကန်ထရိုက်တာသည် အထက်ဖော်ပြပါပုဂ္ဂိုလ်များမှ ကန်ထရိုက်တာ၏ လုပ်ငန်းများနှင့် ပတ်သက်သော အတတ်ပညာပိုင်းဆိုင်ရာနှင့် ထုတ်လုပ်မှုလုပ်ငန်းဆိုင်ရာ အချက်အလက်များ တောင်းခံလာပါက ဆောလျင်စွာကူညီပံ့ပိုးပေးရမည်။ ကိုယ်စားလှယ်များသည် ပုံမှန်လုပ်ငန်းဆောင်ရွက်နေမှုများကို ဝင်ရောက်စွက်ဖက်မှုမျိုး မဖြစ်စေရ။

2217

# The Government of the Republic of the Union of Myanmar

## Ministry of Commerce

## Directorate of Trade

# CERTIFICATE OF EXPORTER/IMPORTER REGISTRATION

1. Enterprise Name (မြန်မာ/အင်္ဂလိပ်) Shwe Moe Yan Co.,LTd.

2. Registration No: 26429(14-09-11)

3. Registration Term: FOUR YEAR

4. Start Date : 25-07-2013

5. End Date : 23-03-2018

6. Address : (မြန်မာ/အင်္ဂလိပ်) No.(26/3),Ground Floor, Nawaday Road, Dagon T/S, Yangon Region,Myanmar

7. Business Registration No : 2653/2010-2011(24-3-2011)

8. Type of Business : (မြန်မာ/အင်္ဂလိပ်)
- ☐ Sole Proprietorship(တစ်ဦးတည်းပိုင်) ☐ Partnership(အစုအစပ်)
- ☑ Limited Company(လီမိတက်ကုမ္ပဏီ)(Myanmar/Foreign)
- ☐ Co-operative Society(သမဝါယမအသင်း)
- ☐ Others(Please specify)အခြား(ဖော်ပြရန်) သင်းဖွဲ့မှတ်တမ်းပါလုပ်ငန်း(　)မျိုး ဆောင်ရွက်ခွင့်ရှိသည်။

9. Type of Service : ○ New ○ Extension ☑ Amendment

10. Contact No :

| Telephone No. | Fax No. | e-mail |
|---|---|---|
| 01 245245 245246 245247 | 951-373676 | shwemoeyan@gmail.com |

11. Remarks :

12. Terms and Conditions : စည်းကမ်းချက်များ

I hereby register the above mentioned enterprise as Exporter/Importer subject to the following terms and conditions: (အောက်ဖော်ပြပါစည်းကမ်းချက်များဖြင့် ပို့ကုန်သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်တမ်းတင်ခွင့်ပြုသည်)

(a) Line of goods permitted - all items except prohibited and restricted items.
ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် - တားမြစ်ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကျန်ကုန်ပစ္စည်းများအားလုံး

(b) The enterprise must abide by the Export/Import rules and Regulations prescribed for the registered Exporters/Importers.(လုပ်ငန်းရှင်သည် မှတ်ပုံတင် ပို့ကုန်သွင်းကုန်လုပ်ငန်းလုပ်ကိုင်သူများ လိုက်နာရမည့်စည်းကမ်းချက်များကို လိုက်နာရမည်)

Stamp

တအမှတ်...........

ရက်စွဲ 4-7-14

For Director General

စစ်နိုင်

EIREGEX12130012

4.7.14

4.7.14

**လုပ်ငန်းရည်ရွယ်ချက်များမှာ**

သင်းဖွဲ့မှတ်တမ်းပါလုပ်ငန်း (၄၈) မျိုးဆောင်ရွက်ခွင့်ရှိသည်

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

ရွှေ မိုး ယံ ကုမ္ပဏီ လီမိတက်

၏

**သင်းဖွဲ့မှတ်တမ်း**

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

# Memorandum Of Association

*AND*

# Articles Of Association

*OF*

**SHWE MOE YAN COMPANY LIMITED**

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ရွှေမိုးယံ ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏ အမည်သည် " ရွှေမိုးယံ ကုမ္ပဏီ လီမိတက် " ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၁၀၀,၀၀၀,၀၀၀/- (ကျပ် သန်း ပါး ရာ တိတိ) ဖြစ်၍ ငွေကျပ်၁၀,၀၀၀/- (ကျပ် တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေအထွေထွေ ပြဋ္ဌာန်းချက်များ နှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့်အာဏာ ရှိစေရမည်။

# စက်မှုလက်မှုနှင့်ထုတ်လုပ်မှုလုပ်ငန်း ရည်ရွယ်ချက်

၁။ နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်များ နှင့်ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

~~(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း။~~

(ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊

~~(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊~~

~~(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊~~

~~(င) ဓါတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊~~

~~(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊

~~(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့်သုတ်ဆေးများ ထုတ်လုပ်ခြင်း၊~~

~~(ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဌ) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

(ဍ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊

(ဎ) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊

၂။ အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသော ကုန်ချောများ တစ်စိတ်တစ်ဒေသကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်၊

၃။ ကုမ္ပဏီမှသင့်လျော် လျော်ကပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်၊

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလ အားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း၊ သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကိုဆောင်ရွက်မည်ဟု ခြွင်းချက် ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဒေါ်မြင့်မြင့်အေး<br>အမှတ်(၁၀၆)၅-လမ်း၊<br>သရက်တော ၁၇ ပိုင်ကွက်၊<br>ကြည့်မြင်တိုင်မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မ ၁<br>၁၂/ကမတ<br>(နိုင်)<br>၀၃၉၅၄၅ | ၂၅၀၀ | |
| ၂။ | ဦးဆန်းဝင်းဦး<br>အမှတ်-၂၆/-၃(မြေညီထပ်)<br>နဝဒေးလမ်း၊ ဒဂုံမြို့နယ်၊<br>ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မ ၁<br>၇/၇တ၇<br>(နိုင်)<br>၀၇၅၃၆၈ | ၂၅၀၀ | |

မြို့။ နေ့စွဲ၊ ၂၀၁၁-ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင်
လက်မှတ်ရေးထိုးကြပါသည်။

Nyunt May
**Daw Nyunt May**
**B.Com, C.P.A**
**Registered Auditor & Accountant**

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

## အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ရွှေမိုးယံ ကုမ္ပဏီ လီမိတက်

၏

### သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည်အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကိုငါးဆယ် အထိသာကန့်သတ်ထားသည်။

(ခ ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက်ငွေထည့် ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းမှာ ကျပ် ၅၀၇,၀၀၀,၀၀၀ /-(ကျပ် သန်း ငါး ရ ၁ တိတိ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀ /-(ကျပ် တစ် သော င်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၅၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသောတရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့်ပြင်ဆင် နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည်ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်းသို့မဟုတ်ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများကသတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်းသို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦး ထက်မနည်း၊ ( ၁ ၇)ဦးထက်မများစေရ။
ပထမဒါရိုက်တာများသည် -

( ၁ ) **ဒေါ်မြင့်မြင့်အေး**
( ၂ ) **ဦးဆန်းဝင်း ဦး**
( ၃ ) -
( ၄ )
( ၅ )

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သောသတ်မှတ်ချက်များ၊ညာဏ်ပူဇော်ခများဖြင့်ခန့်ထားရမည်ဖြစ်ပြီးအခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများအားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏အစုရှယ်ယာအနည်းဆုံး ၃၀)စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းပေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံးဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။အစည်းအဝေးတွင်မည်သည့်ပြဿနာမဆိုပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

**အထွေထွေအစည်းအဝေးကြီးများ**

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

**အမြတ်ဝေစုများ**

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ဖွဲ့ဝေမပေးရ။

**ရုံးဝန်ထမ်းများ**

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

**ငွေစာရင်းများ**

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

**စာရင်းစစ်**

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဒေါ်မြင့်မြင့်အေး<br>အမှတ်(၁၀၆) ၅-လမ်း ၊<br>သရက်တော ၁၇ ပိုင်ကွက်၊<br>ကြည့်မြင်တိုင်မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မ ၁<br>၁၂/ကမတ<br>(နိုင်)<br>၀၃၉၅၄၅ | ၂၅၀၀ | Myint Myint Aye |
| ၂။ | ဦးဆန်းဝင်းဦး<br>အမှတ်-၂၆/-၃ (မြေညီထပ်)<br>နဝဒေး လမ်း ၊ ဒဂုံမြို့နယ်၊<br>ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မ ၁<br>၇/ ၇တ၇<br>(နိုင်)<br>၀၇၅၃၆၈ | ၂၅၀၀ | [signature] |

မြို့။ နေ့စွဲ၊ ၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

Nyunt May

**Daw Nyunt May**
B.Com, C.P.A
**Registered Auditor & Accountant**

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

SHWE MOE YAN COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is SHWE MOE YAN COMPANY LIMITED.

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. 500,000,000 /- ( Kyats Five Hundred Million Only ) divided into ( 50000 ) shares of Ks. 10,000 /- ( Kyats Ten Thousand Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

# Objectives of Industry and Manufacturing

1. To carry on the business of manufacturing, growing, milling and preserving etc; of the , following commodities permitted by the Government, either solely on its own or in Joint-venture with any local or foreign partners.
   - ~~(a) Growing, producing, harvesting, preserving, packing, milling and manufacturing of agricutural and farm products.~~
   - (b) Felling, extracting (with the permission from the authorities concerned) milling, manufacturing, preserving and seasoning of timber (excluding teak) and forest products.
   - ~~(c) Livestock breeding, processing and canning of livestock products.~~
   - ~~(d) Fishing, preserving, milling, canning and processing of marine products.~~
   - ~~(e) Producing fertilizers, insecticides and animal feeds.~~
   - ~~(f) Manufacturing of personal goods.~~
   - ~~(g) Manufacturing of household goods.~~
   - ~~(h) Manufacturing of vehicles, machineries and spares.~~
   - (i) Manufacturing of arts and crafts, lacquerwares and furniture.
   - ~~(J) Manufacturing of construction materials and paints.~~
   - ~~(k) Manufacturing of factory utencils.~~
   - ~~(l) Manufacturing of electrical and electronic goods.~~
   - (m) Manufacturing of textile, garments and clothings.
   - (n) To carry on the business of exploration, exploitation, production, processing of minerals and marketing of its products with the permission of the Government.

2. To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and abroad.
3. To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manner that the Company shall think fit.

**PROVISO:** Provided that the Company shall not exercise any of the above objects whether in the Union ofMyanmar or elsewhere, save in so for as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union ofMyanmar for the time being in force

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | Daw Myint Myint Aye No(106)5th Street, Thayat Taw Quarter, Kyi Myin Daing Township, Yangon. (Merchant) | Myanmar 12/Ka Ma Ta (Naing) 039545 | 2500 | |
| 2. | U San Win Oo No.26/3, Ground Floor, Nawaday Road, Dagon Township, Yangon. (Merchant) | Myanmar 7/Ya Ta Ya (Naing) 075368 | 2500 | |

Township. Dated the day February of 2011 ,

*It is hereby certified that the persons mentioned above put their signatures in my presence.*

Daw Nyunt May
B.Com, C.P.A
Registered Auditor & Accountant

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

SHWE MOE YAN COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

*(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

*(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks. 500,000,000 /- (Kyats Five Hundred Million Only ) divided into ( 50000 ) shares of K 10,000 /- (Kyats Ten Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognized by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than (17 ).

The First Directors shall be:-

(1) Daw Myint Myint Aye

(2) U San Win Oo

(3)

(4)

(5)

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least (10 ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table " A " of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debentures stocks of the Company charged upon all or any part of the property of the Company (both present and future ) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds , debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up there on as may be agreed upon ; and any such bonds, debentures or other securities may be either specifically charged up on all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director , General Manager , Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute conduct , defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Conpany.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange , cheques, promissory notes zreceipts,endorsements,releases, contracts and documents for or on behalf of the Company.

(14) To invest,place on deposit and otherwise deal with any of the moneys of the Company'not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future )as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make , vary and repeal bye- laws for the regulation of the business of the Company , the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts , deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceeding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members ) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members , but no dividend shall exceed the amount recommended by the Directors .No dividends shall be paid otherwise than out of the profits of the year or any other undistributed profits .

## OFFICE STAFF

17. The Company shall maintain an office establisment and appoint a qualified person as General Manager and other qualified persons as office staffs . The remunerations and allowances such as salaries , travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting .The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1)* ***all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:***

*(2)* ***all sales and purchases of goods by the Company ;***

*(3)* ***all assets and liabilities of the Company.***

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | Daw Myint Myint Aye<br>No(106)5th Street, Thayat Taw Quarter, Kyi Myin Daing Township, Yangon.<br>(Merchant) | Myanmar<br>12/Ka Ma Ta<br>(Naing)<br>039545 | 2500 | [signature] |
| 2. | U San Win Oo<br>No.26/3, Ground Floor, Nawaday Road, Dagon Township, Yangon.<br>(Merchant) | Myanmar<br>7/Ya Ta Ya<br>(Naing)<br>075368 | 2500 | [signature] |

Township. Dated the day of February 2011,

*It is hereby certified that the persons mentioned above put their signatures in my presence.*

[signature]

Daw Nyunt May
B.Com, C.P.A
Registered Auditor & Accountant